ကုမ္ပဏီအမည် - Aqua Pura Company Limited

လုပ်ငန်း - မုံရွာမြို့နယ် စည်ပင်သာယာရေးအဖွဲ့ နှင့် Aqua Pura Company Limited တို့မှ B.O.T စနစ်ဖြင့် ချင်းတွင်းမြစ်ရေတင် ရေသန့်စက်ရုံတည်ထောင်၍ မုံရွာမြို့သုံးရေဖြန့်ဖြူးခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၈-၆-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၂၂/၂၀၁၆ သို့တင်ပြခြင်း | ၁၃-၆-၂၀၁၆ | | |
| ၃ | PAT အစည်းအဝေးဆုံးဖြတ်ချက်ပေးပို့ခြင်း | ၂၀-၆-၂၀၁၆ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း**<br>(က စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး (ပကြိမ်)<br>(ဒုကြိမ်)<br>(တကြိမ်)<br>(ခ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန<br>(ဂ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | <br>၆-၆-၂၀၁၆<br>၂၀-၇-၂၀၁၆<br>၂၅-၈-၂၀၁၆<br>၆-၆-၂၀၁၆<br>၆-၆-၂၀၁၆ | <br><br><br>၂၆-၁၀-၂၀၁၆<br>၁၆-၆-၂၀၁၆<br>၁၆-၆-၂၀၁၆ | |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၁၇-၁၀-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှပြန်လည်ပြင်ဆင်တင်ပြလာခြင်း | ၂-၁၂-၂၀၁၆ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၂၃/၂၀၁၆)MIC | ၁၇-၁၂-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၈၇ ရက်** | | | |

## မုံရွာမြို့နယ် စည်ပင်သာယာရေးကော်မတီ နှင့် Aqua Pura Co., Ltd. တို့မှ B.O.T စနစ်ဖြင့် ချင်းတွင်းမြစ်ရေတင် ရေသန့်စင်စက်ရုံတည်ထောင်၍ မုံရွာမြို့ သုံးရေဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါ ရန် အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Aqua Pura Co., Ltd. | B.O.T စနစ်ဖြင့်ချင်းတွင်းမြစ်ရေတင် ရေသန့်စင်စက်ရုံတည်ထောင်၍ မုံရွာမြို့သုံးရေဖြန့်ဖြူးခြင်းလုပ်ငန်း | ၂၂/၂၀၁၆<br>၁၃-၆-၂၀၁၆ | (က)ပြည်ထောင်စုရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော B.O.Tစာချုပ်နှင့် မြေငှားစာချုပ်(မူကြမ်း) တင်ပြရန် | စာချုပ်(မူကြမ်း) တင်ပြထားပါသည်။ | |
| | | | | (ခ) လုပ်ငန်းဆောင်ရွက်မည့် ရေပေးဝေရေးစနစ်ကို စနစ်တကျ (Layout Plan)ဖြင့် ဖော်ပြရန်နှင့် ကောက်ခံမည့်နှုန်းထားပြန်လည်စိစစ်တင်ပြရန် | ပြင်ဆင်ပြီး | |
| | | | | (ဂ)စီးပွားရေးဆိုင်ရာတွက်ချက်မှုများပြင်ဆင်တင်ပြရန်။ | ပြင်ဆင်ပြီး | |

| | |
|---|---|
| ကုမ္ပဏီအမည် | Aqua Pura Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | B.O.Tစနစ်ဖြင့် ချင်းတွင်းမြစ်ရေတင် ရေသန့်စင်စက်ရုံ တည်ထောင်၍ မုံရွာမြို့သုံးရေဖြန့်ဖြူးခြင်းလုပ်ငန်း |
| တည်နေရာ | စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့နယ်၊ ရုံးကြီးရပ်ကွက်၊ ကွင်းအမှတ် (၆၇၉)၊ ဦးပိုင်အမှတ် (၆၅/၆၆/၇၄)၊ ကွင်းအမည် (လှေကူး-ကွေ့ကြီး)ရှိ မြေဧရိယာ ၁.၄၈ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ၇၃၆၀.၀၀ ကျပ်သန်း |
| လုပ်ငန်းသက်တမ်း | ၃၀ နှစ် (၁၀ နှစ် နှစ်ကြိမ် သက်တမ်းတိုး) |
| အရင်းကြေကာလ | ၈ နှစ် ၁၁ လ |
| IRR | ၁၀.၅၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကို အောက်ပါဇယားဖြင့်ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀သန်း(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၃၀၁.၆၅ သန်း | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၆၆၄.၉၅သန်း | ကျပ် ၄၂၃.၉.၃၈ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၆၆၇.၄၉ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ် (၄၈) သိန်း ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၁) ဦး |
| ၇ | CSR (၂%) | - | ကျပ် ၉၃.၃၈ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်းလုပ်သား (၂၈)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ကို အထောက်အကူပြုစေပါသည်။ |
| | | **ကျပ် ၉၆၉.၆၀ သန်း** | **ကျပ် ၅,၀၀၁.၄၅ သန်း** |
| | | **၁ : ၅** | |

## မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co., Ltd. (အကွာပူရကုမ္ပဏီလီမိတက်) တို့မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်ရေသန့်စင်စက်ရုံတည်ဆောက်ပြီးမုံရွာမြို့သုံးရေဖြန့်ဖြူးခြင်း လုပ်ငန်းကို B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

<table>
<tr><td>၁။</td><td>ကုမ္ပဏီအမည်</td><td>- Aqua Pura Co., Ltd. (အကွာပူရကုမ္ပဏီလီမိတက်)</td></tr>
<tr><td>၂။</td><td>လုပ်ငန်းအဆိုပြုသူအမည်</td><td>- ဦးအေးထွန်းအောင်<br>- မန်နေဂျင်းဒါရိုက်တာ</td></tr>
<tr><td>၃။</td><td>ရင်းနှီးမြှုပ်နှံမှုပုံစံ</td><td>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု</td></tr>
<tr><td>၄။</td><td>အဆိုပြုလုပ်ငန်းအမျိုးအစား</td><td>- B.O.Tစနစ်ဖြင့် ချင်းတွင်းမြစ်ရေတင် ရေသန့်စက်ရုံ တည်ဆောက်ပြီး မုံရွာမြို့သုံးရေဖြန့်ဖြူးခြင်းလုပ်ငန်း</td></tr>
<tr><td>၅။</td><td>လုပ်ငန်းနေရာ</td><td>- စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့နယ်၊ ရုံးကြီးရပ်ကွက်၊ကွင်းအမှတ် (၆၇၉)၊ ဦးပိုင်အမှတ် (၆၅/၆၆/၇၄)၊ ကွင်းအမည် (လှေကူး-ကွေ့ကြီး)၊ မုံရွာမြို့ချင်းတွင်းမြစ်ရေတင်စက်ရုံမြေနေရာ၏ ဧရိယာ (၁.၄၈)ဧက</td></tr>
<tr><td>၆။</td><td colspan="2"><table>
<tr><td>စုစုပေါင်းမတည်ငွေရင်း</td><td>ကျပ်(သန်း)</td><td>US$(သန်း)</td><td>စုစုပေါင်းကျပ်(သန်း)</td></tr>
<tr><td>ငွေသား</td><td>၂၃၁.၈၇</td><td>-</td><td>၂၃၁.၈၇</td></tr>
<tr><td>စက်ပစ္စည်းတန်ဖိုးပမာဏ</td><td>၂၄.၄၀</td><td>၂.၃၅</td><td>၂,၈၄၈.၀၀</td></tr>
<tr><td>အဆောက်အအုံ</td><td>၁,၀၀၀.၀၀</td><td>-</td><td>၁,၀၀၀.၀၀</td></tr>
<tr><td>ရုံးသုံးပစ္စည်း</td><td>၁၀.၈၀</td><td>-</td><td>၁၀.၈၀</td></tr>
<tr><td>ပိုက်နှင့်ဆက်စပ်ပစ္စည်း</td><td>-</td><td>၂.၅၂</td><td>၃,၀၂၂.၁၃</td></tr>
<tr><td>ယာဉ်ယန္တရား</td><td>-</td><td>၀.၂၁</td><td>၂၄၇.၂၀</td></tr>
<tr><td>စုစုပေါင်း</td><td>၁,၂၆၇.၀၇</td><td>၅.၀၈</td><td>၇,၃၆၀.၀၀</td></tr>
</table></td></tr>
<tr><td>၇။</td><td>တည်ဆောက်ရေးကာလ</td><td>- ၁ နှစ် ၆လ</td></tr>
<tr><td>၈။</td><td>ပဏာမစူးစမ်းလေ့လာမှုကာလ</td><td>- ၃လ</td></tr>
<tr><td>၉။</td><td>ရင်းနှီးမြှုပ်နှံမှုသက်တမ်း</td><td>- ကနဦး၃၀ နှစ်(သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ်)</td></tr>
<tr><td>၁၀။</td><td>B.O.T စာချုပ်သက်တမ်း</td><td>- ၃၀နှစ်</td></tr>
<tr><td>၁၁။</td><td>ဝန်ဆောင်မှု(ဆဋ္ဌမမြောက်နှစ်)</td><td><table>
<tr><td>ရေအသုံးပြုမည့် ခန့်မှန်းအိမ်ထောင်စု/ တစ်ရက်</td><td>အသုံးပြုသည့် ယူနစ်/တစ်ရက်</td><td>တစ်ယူနစ် ဈေးနှုန်း (ကျပ်)</td><td>ဝင်ငွေ(ဆဋ္ဌမ မြောက်နှစ်) ကျပ်(သန်း)</td></tr>
<tr><td>၁၀,၀၀၀</td><td>၅,၀၀၀</td><td>၇၃၅</td><td>၁,၃၄၁.၃၈</td></tr>
</table>
ပထမနှစ်တွင် ရေ ၁ ကုဗမီတာ (၅ ပေပါ)လျှင် (၇၀၀ိ/-) ကျပ်ဖြင့် ကောက်ခံသွားမည်ဖြစ်၍ ဒုတိယနှစ်မှ B.O.T သက်တမ်းကာလကုန်ဆုံး</td></tr>
</table>

| | | |
|---|---|---|
| | | သည်အထိ မူလနှုန်းထား (၇၀၀ိ/-)ကျပ် ပေါ်တွင် တစ်နှစ်လျှင် ၅% စီ ထပ်မံတိုးမြှင့်ရောင်းချ ကောက်ခံသွားမည်ဖြစ်သည်။ |
| ၁၂။ | ကုမ္ပဏီ၏(ဆဋ္ဌမမြောက်နှစ်)<br>ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | <br>- ကျပ် ၁,၃၄၁.၃၈ သန်း<br>- ကျပ် ၉၃၉.၅၈ သန်း<br>- ကျပ် ၄၀၁.၈၀ သန်း |
| ၁၃။ | နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ်(၆)နှစ်မြောက်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၁၃၃.၉၃ သန်း<br>- ကျပ် ၆၇.၀၇ သန်း |
| ၁၄။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၂၈ ဦး (တစ်လလျှင် ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၁၀,၀၀၀ ကျပ်၊ အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ဖြစ်ပါသည်။)<br>- ပြည်ပ တင်ပြထားခြင်းမရှိပါ။ |
| ၁၅။ | အရင်းကြေကာလ | - ၈ နှစ် ၁၁ လ |
| ၁၆။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၀.၅၈ % |
| ၁၇။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် Asia Green Development Bank(SULE) ၌ Aqua Pura Co., Ltd. အမည်ဖြင့် (၂၅-၁၁-၂၀၁၆) ရက်စွဲဖြင့် ကျပ်သန်း (၁၅၀)နှင့် ဒါရိုက်တာ ဦးရင်ထွေး အမည်ဖြင့် (၂၃-၁၁-၂၀၁၆) ရက်စွဲဖြင့် ကျပ် ၃၀၅,၁၄၅,၀၆၅.၁၃ ရှိကြောင်းတင်ပြထားပါသည်။ |
| ၁၈။ | မြေငှားစာချုပ်ပါအဓိကအချက်များ | - ဦးထွန်းထွန်း(အမှုဆောင်အရာရှိ)၊ စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co., Ltd. မှ မန်နေဂျင်းဒါရိုက်တာဦးအေးထွန်းအောင်တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-<br>(က) စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့၊ ရုံးကြီးရပ်ကွက်၊ ကွင်းအမှတ် (၆၇၉)၊ ဦးပိုင်အမှတ် (၆၅/၆၆/၇၄)၊ ကွင်းအမည် လှေကူး-ကွေ့ကြီး ၊ဧရိယာ(၁.၄၈)ဧကအား ငှားရမ်းဆောင် |

| | | |
|---|---|---|
| | | ရွက်မည်ဖြစ်ပါသည်။<br>(ခ) မြေငှားရမ်းကာလမှာ လုပ်ငန်းစတင်သည့်နေ့မှစ၍ နှစ်ပေါင်း(၃၀)ဖြစ်၍ ဆက်လက်ငှားရမ်း လုပ်ကိုင်ဆောင်ရွက်လိုပါက နောက်ထပ်တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် (၂)ကြိမ်ဆက်လက်ငှားရမ်းဆောင်ရွက်ခွင့်ရှိသည်။<br>(ဂ) မြေဧရိယာ (၁.၄၈)ဧကမြေ အသုံးပြုခြင်းအတွက် နှစ်စဉ်မြေငှားရမ်းခမှာ ကျပ် ၃,၆၀၀,၀၀၀ (ကျပ်သုံးဆယ်ခြောက်သိန်းတိတိ)ဖြစ်သည်။<br>(ဃ) ရေသန့်စက်ရုံလုပ်ငန်း တည်ဆောက်သည့် ကာလအတွင်း မြေငှားရမ်းခ ကင်းလွတ်ခွင့်ပြုသည်။ |
| ၁၉။ | B.O.T စာချုပ်ပါ အဓိက အချက်များ | - မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co., Ltd. တို့အကြား ချုပ်ဆိုထားသည့် B.O.T စာချုပ် (မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(က) မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်းကို B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်အတွက် မုံရွာမြို့နယ် စည်ပင်သာယာရေးကော်မတီအား မြေငှားရမ်းခအနေဖြင့် တစ်နှစ်လျှင် ကျပ်သိန်း (၃,၆၀၀,၀၀၀)ကို ပေးသွင်းရမည်။ တည်ဆောက်ရေးကာလအတွင်းတွင် ကင်းလွတ်ခွင့် ရရှိမည်ဖြစ်သည်။ စီးပွားဖြစ်စတင်ဖြန့်ဖြူး ရောင်းချသည့်နေ့မှစ၍ B.O.Tစာချုပ် သက်တမ်းကုန်ဆုံးသည်အထိ နှစ်စဉ်မပျက်မကွက် ပေးသွင်းရမည်ဖြစ်သည်။<br>(ခ) လုပ်ငန်းလုပ်ကိုင်သူသည် မြစ်ရေတင် ရေသန့်စက်ရုံစီမံကိန်းမှ သန့်စင်၍ ထွက်ရှိလာသောရေအား စီးပွားဖြစ်ဖြန့်ဖြူးရောင်းချ၍ အခွန်ငွေအားလုံး ပေးဆောင်ပြီး ရရှိလာသော အသားတင်အကျိုးအမြတ် (Net Profit)၏ (၂၀%) အား လုပ်ငန်းခွင့်ပြုသူကို ခွဲဝေပေးရမည်။<br>(ဂ) စက်ရုံမှသန့်စင်၍ ထွက်ရှိလာသောရေအား လုပ်ငန်းလုပ်ကိုင်သူမှ အောက်ပါနှုန်းထားအတိုင်း ကောက်ခံသွားမည်-<br>(၁) ရေသန့်စက်ရုံဖြန့်ဖြူးခြင်းပိုက်လိုင်းမှတဆင့် အိမ်ရှေ့ရေတိုင်အထိ ရေ ၁ ကုဗမီတာ (၅ ပေပါ)လျှင် (၇၀၀/-) ကျပ်ဖြင့် လည်းကောင်း ပထမနှစ်တွင် ကောက်ခံသွားမည်ဖြစ်သည်။ |

| | | |
|---|---|---|
| | | (၂) ဒုတိယနှစ်မှ B.O.T သက်တမ်းကာလကုန်ဆုံးသည် အထိမူလနှုန်းထား (၇၀ဝိ/-)ကျပ်ပေါ်တွင် တစ်နှစ်လျှင် ၅% စီ ထပ်မံတိုးမြှင့်ရောင်းချ ကောက်ခံသွားမည်ဖြစ်သည်။<br>(၃) အထက်ပါ နှုန်းထားများအတိုင်း ဖြန့်ဖြူးရန် အခက်အခဲရှိပါက လိုအပ်သလို ညှိနှိုင်းဆောင်ရွက်သွားမည်။<br>(ဃ) ဤသဘောတူစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီး စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင်အတည်ပြု လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။<br>(င) သဘောတူစာချုပ် သက်တမ်းကာလမှာ ဤသဘောတူစာချုပ်အား နှစ်ဖက်လက်မှတ် ရေးထိုးသည့်နေ့မှစပြီး မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်းမှ သန့်စင်ပြီးရေအား စီးပွားဖြစ်စတင်ထုတ်လုပ် ဖြန့်ဖြူးနိုင်သည့်နေ့ရက်မှ စတင်၍ နောက်ထပ် နှစ်ပေါင်း (၃၀) အထိဖြစ် သည်။<br>(စ) သဘောတူစာချုပ်ကာလဆက်လက်တိုးမြှင့်လိုပါက သဘောတူစာချုပ် သက်တမ်းမကုန်ဆုံးမီ ၆ လ ကြိုတင်၍ စာချုပ်ဝင်နှစ်ဖက်ညှိနှိုင်းကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်းစည်းကမ်းချက်များနှင့်အညီ (၁၀) နှစ် တစ်ကြိမ်စီဖြင့် (၂)ကြိမ် သဘောတူစာချုပ်သက်တမ်းတိုးမြှင့်နိုင်သည်။ |
| ၂၀။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - CSR လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ ၂ %၊ အသုံးပြုသွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ |
| ၂၁။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအစီအစဉ်ရေးဆွဲတင်ပြထားပါသည်။ |
| ၂၂။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - လျှပ်စစ်ဓါတ်အားကိုမဟာဓာတ်အားလိုင်းမှ သွယ်တန်းအသုံးပြုမည်ဖြစ်၍ မီးမရသည့်အချိန်တွင် ကိုယ်ပိုင် Generator ၅၀၀ KVA) တပ်ဆင် အသုံးပြုမည်ဖြစ်ပါသည်။ |
| ၂၃ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | - သက်ဆိုင်ရာ အဖွဲ့အစည်းများမှ ချမှတ်ထားသော စည်းမျဉ်းစည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် |

| | | |
|---|---|---|
| | | ထိန်းသိမ်းရေးစီမံ ချက်ရေးဆွဲတင်ပြသွားမည် ဖြစ်ကြောင်းတင်ပြထားပါ သည်။ |
| ၂၄။ | အခြားတင်ပြချက်များ | - Aqua PuraCo., Ltd.နှင့် Chin Crop (Myanmar) Co., Ltd. တို့၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ MOA ၊ AOA(မိတ္တူ) နှင့် ဒါရိုက်တာစာရင်း၊ စီမံကိန်းဆောင်ရွက်မည့်မြေနေရာ တို့ကို တင်ပြထားပါသည်။<br>- မုံရွာမြို့ရေသန့်စင်စက်ရုံနှင့် ရေပေးဝေရေးဆိုင်ရာ ဖြစ်နိုင်ခြေဆန်းစစ်လေ့လာမှုအစီရင်ခံစာကိုတင်ပြထားပါသည်။ |
| ၂၅။ | စိစစ်တင်ပြချက် | (က)B.O.Tစနစ်ဖြင့် ချင်းတွင်းမြစ်ရေတင် ရေသန့်စက်ရုံတည်ဆောက်ပြီး မုံရွာမြို့သုံးရေ ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ရန် Aqua Pura Co., Ltd. နှင့် မုံရွာမြို့နယ် စည်ပင်သာယာရေး ကော်မတီတို့ သဘောတူစာချုပ် (မူကြမ်း)အား ပြည်ထောင်စုရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြထားပါသည်။<br>(ခ)အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် မုံရွာမြို့နယ် စည်ပင်သာယာရေးကော်မတီမှ အသုံးပြုလျက်ရှိသော မြေဖြစ်ကြောင်း စစ်ကိုင်းတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ ခွင့်ပြုထားခဲ့ပြီး လယ်ယာမြေအသုံးပြုခွင့် (လယ-၃၀) လျှောက်ထားဆဲဖြစ်ကြောင်း မြေရာဇဝင်ကို စိစစ်တွေ့ရှိရပါသည်။<br>(ဂ) ကုမ္ပဏီအနေဖြင့် အောက်ဖော်ပြပါရပ်ကွက်(၁၂)ခုသို့ ရေပေးဝေခြင်းဆောင်ရွက်မည်ဖြစ်ပါသည်-<br>(၁) အိုးဘိုတောင်ရပ်ကွက်<br>(၂) မြို့သစ်ရပ်ကွက်<br>(၃) အောင်ချမ်းသာရပ်ကွက်<br>(၄) ဘုရားကြီးရပ်ကွက်<br>(၅) ကွေ့ကြီးရပ်ကွက်<br>(၆) ဒေါနခြံရပ်ကွက်<br>(၇) ရုံးကြီးရပ်ကွက်<br>(၈) ဆူးလေကုန်းရပ်ကွက်<br>(၉) အလယ်ရပ်<br>(၁၀)အောင်မင်္ဂလာရပ်ကွက် |

| | | |
|---|---|---|
| | | (၁၁)အေးသာယာရပ်ကွက်<br>(၁၂)မုံရွာတောင်ရပ်ကွက်<br>(ဃ) ကုမ္ပဏီအနေဖြင့် မုံရွာစည်ပင်သာယာရေးကော်မတီသို့ နှစ်စဉ်မြေငှားရမ်းခ ၃၆ သိန်းနှင့် နှစ်စဉ်အကျိုးအမြတ်၏ ၂၀% ကို ပေးသွင်း၍ အဆိုပြုလုပ်ငန်းအား ဆောင်ရွက်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။<br>(င)ကုမ္ပဏီအနေဖြင့် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် ပြည်ပမှ အမေရိကန်ဒေါ်လာ ၅.၀၈ သန်း တန်ဖိုးရှိ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းဆောင်ရွက်မည်ဖြစ်ပြီး လူစီးမော်တော်ယာဉ်များအား အခွန်ပေးဆောင် တင်သွင်းရမည်ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ) /မ-၀၂၀/၂၀၁၆ (၅၆၀)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မုံရွာမြို့နယ် စည်ပင်သာယာရေးကော်မတီ နှင့် Aqua Pura Co., Ltd. တို့မှ B.O.T စနစ်ဖြင့် ချင်းတွင်းမြစ်ရေတင် ရေသန့်စက်ရုံတည်ထောင်၍ မုံရွာမြို့သုံးရေဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မုံရွာမြို့နယ် စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co., Ltd. တို့သည် စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့နယ်၊ ရုံးကြီးရပ်ကွက်၊ ကွင်းအမှတ် (၆၇၉)၊ ဦးပိုင်အမှတ် (၆၅/၆၆/၇၄)၊ ကွင်းအမည် (လေ့ကူး-ကွေ့ကြီး)ရှိ မြေဧရိယာ ၁.၄၈ ဧကအား ချင်းတွင်းမြစ်ရေတင် ရေသန့်စက်ရုံတည်ဆောက်၍ B.O.T စနစ်ဖြင့် မုံရွာမြို့သုံးရေ ဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co., Ltd. တို့ ချုပ်ဆိုထားသည့်မြေငှားစာချုပ် (မူကြမ်း)၊ B.O.T စာချုပ် (မူကြမ်း)၊ Layout plan၊ Flow diagram၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း(မိတ္တူ)တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး ၃၀နှစ် ဖြစ်၍ ၁၀နှစ် နှစ်ကြိမ်သက်တမ်းတိုးမည်ဖြစ်ပါသည်။ နှစ်စဉ်မြေငှားရမ်းခအနေဖြင့် မြေဧရိယာ ၁.၄၈ ဧကအား တစ်နှစ်လျှင် ကျပ် ၃၆ သိန်း (တစ်နှစ် တစ်စတုရန်းမီတာလျှင် ၆၀၁.၁၀ကျပ်) နှုန်းဖြင့် ငှားရမ်းဆောင်ရွက်မည်ဖြစ်ပြီး နှစ် ၃၀ သက်တမ်းရှိ ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော မြေငှားစာချုပ် (မူကြမ်း)အား တင်ပြထားပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ ကျပ် ၇,၃၆၀.၀၀ သန်း ဖြစ်ပြီး အမေရိကန်ဒေါ်လာ ၅.၀၈ သန်း တန်ဖိုးရှိ လုပ်ငန်းသုံးစက်ပစ္စည်းများ၊ ယာဉ်ယန္တရားများ၊ ပိုက်နှင့် Accessories အား ပြည်ပမှတင်သွင်းမည်ဖြစ်ပြီး မတည်ငွေရင်းထည့်ဝင်မှု အမျိုးအစားများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ကျပ်(သန်း) | US$(သန်း) | ကျပ်(သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၂၃၁.၈၇ | - | ၂၃၁.၈၇ |
| (ခ) | စက်ပစ္စည်း | ၂၄.၄၀ | ၂.၃၅ | ၂,၈၄၈.၀၀ |
| (ဂ) | အဆောက်အအုံ | ၁,၀၀၀.၀၀ | - | ၁,၀၀၀.၀၀ |
| (ဃ) | ရုံးသုံးပစ္စည်း | ၁၀.၈၀ | - | ၁၀.၈၀ |
| (င) | ပိုက်နှင့်ဆက်စပ်ပစ္စည်း | - | ၂.၅၂ | ၃,၀၂၂.၁၃ |
| (စ) | ယာဉ်ယန္တရား | - | ၀.၂၁ | ၂၄၇.၂၀ |
| | စုစုပေါင်းမတည်ငွေရင်း | ၁,၂၆၇.၀၇ | ၅.၀၈ | ၇,၃၆၀.၀၀ |

**အမေရိကန် ၁ ဒေါ်လာလျှင် ၁,၂၀၀ နှုန်းဖြင့် တွက်ချက်ထားပါသည်။**

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၂၈) ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။

၆။ အဆိုပြုလုပ်ငန်းမှ တစ်နေ့လျှင် ရေကုဗမီတာ ၅,၀၀၀ ဖြန့်ဖြူးပေးမည်ဖြစ်၍ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ခန့်မှန်းရေဝယ်ယူမည့် အိမ်ထောင်စုဦးရေ၊ တစ်ရက်အသုံးပြုမည့်ယူနစ်နှင့် ဝန်ဆောင်ခနှုန်း(ကျပ်) တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ရေအသုံးပြုမည့်ခန့်မှန်း အိမ်ထောင်စု/တစ်ရက်** | **အသုံးပြုသည့် ကုဗမီတာ(ယူနစ်)/ တစ်ရက်** | **တစ်ကုဗမီတာ ဈေးနှုန်း(ကျပ်)** | **ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) ကျပ်(သန်း)** |
|---|---|---|---|
| ၁၀,၀၀၀ | ၅,၀၀၀ | ၇၃၅ | ၁,၃၄၁.၃၈ |

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမနှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် ဝင်ငွေနှင့် အသုံးစားရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | **ကျပ်(သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၁,၃၄၁.၃၈ |
| (ခ) | အသုံးစရိတ် | ၉၃၉.၅၈ |
| (ဂ) | အသားတင်အမြတ် | ၄၀၁.၈၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၃၃.၉၃ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန်ကျပ် ၆၇.၀၇ သန်းဖြစ်ပါသည်။ လုပ်ငန်း၏အရင်းကြေကာလမှာ ၈ နှစ် နှင့် ၁၁ လ ဖြစ်၍ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၀.၅၈ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် အဖွဲ့အစည်းများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး** **(နောက်ဆက်တွဲ-က)**

မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co., Ltd. တို့ B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းကြောင့် မုံရွာမြို့တွင်းရှိရပ်ကွက်များတွင် သန့်ရှင်းသော

သောက်သုံးရေရရှိစေခြင်း၊ ပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းရရှိစေခြင်း၊ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီအနေဖြင့် ယင်းလုပ်ငန်းအား ဆောင်ရွက်ရန်အတွက် ရန်ပုံငွေလုံလောက်မှုမရှိဘဲ ကုမ္ပဏီများနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်မှသာအောင်မြင်နိုင်မည် ဖြစ်သောကြောင့် မုံရွာမြို့နယ် စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co., Ltd. တို့ B.O.T စနစ်ဖြင့် စာချုပ်ချုပ်ဆိုသင့်ပါကြောင်း စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၉-၉-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော Cabinet အစည်းအဝေးအမှတ်စဉ် (၁၄/၂၀၁၆) ဆုံးဖြတ်ချက် (၃၅) အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

(ခ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co., Ltd. မှ B.O.T စနစ်ဖြင့် ဆောင်ရွက်မည့် မုံရွာမြို့တွင်း ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းမှ ထုတ်ယူသုံးစွဲမည့်ရေပမာဏသည် စီးဆင်းနေသောရေထုထည်ထက် များစွာလျော့နည်းသည့်အတွက် နေ့စဉ်ထုတ်ယူသုံးစွဲခြင်းဖြင့် ချင်းတွင်းမြစ်ရေစီးရေလာနှင့် မြစ်ကြောင်းစီးဆင်းမှုအနေအထားတို့အား ထိခိုက်နိုင်ဖွယ် မရှိပါကြောင်းနှင့် ရေအသုံးပြုသူက ပေးဆောင်ရမည့် ရေအသုံးပြုခနှင့် ပတ်သက်၍ နောင်ဖြစ်ပေါ်လာမည့် ရေဥပဒေအား လိုက်နာဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ဂ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Scocial Responsibility –CSR )အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များအတိုင်း

အစီရင်ခံစာ ရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ဆက်လက်ဆောင်ရွက်ရန်၊ အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေ ရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင် ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊ သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။ **(ကုမ္ပဏီမှ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ IEE နှင့် EIA အစီရင်ခံစာတို့အား ရေးဆွဲတင်ပြမည်ဖြစ်ပြီး ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။)**

၁၀။ ငွေကြေးအထောက်အထားများအဖြစ် AGD Bank (Sule) ဘဏ်ခွဲ၌ Aqua Pura Co., Ltd. အမည်ဖြင့် ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာ လ ၂၅ ရက်နေ့ ရက်စွဲဖြင့် ကျပ် ၁၅၀,၀၀၀,၀၀၀ ရှိကြောင်းနှင့် AGD Bank (Sule) ဘဏ်ခွဲ၌ ဦးရင်ထွေးအမည်ဖြင့် ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာ လ ၂၃ ရက်နေ့ ရက်စွဲဖြင့် ကျပ် ၃၀၅,၁၄၅,၀၆၅.၁၃ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် မြို့နယ်မီးသတ်ဦးစီးဌာန၏ လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ အရေးကြီးသည့်နေရာများတွင် မီးသတ်ဆေးဘူးများ၊ အလိုအလျောက်မီးငြိမ်းစေမည့် Auto Fair Ball, Sprinkler Smoke Detector များတပ်ဆင်ခြင်းတို့နှင့် ဝန်ထမ်းများအား မီးသတ်သင်တန်းပေးခြင်းများ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ တင်သွင်းမည့် စက်ပစ္စည်းများ၏ နမူနာပုံစံ၊ အလုပ်သမားသက်သာ ချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်မည့်အစီအစဉ်၊ စက်ရုံဝန်ထမ်းများအတွက် လစာဝင်ငွေခွန် ပေးဆောင်မည့် အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှု အစီအမံတို့ကို တင်ပြထားပြီး လူမှု

ဘဝသာယာဝပြောရေး (Corporate Social Responsibility -CSR)အတွက် နှစ်စဉ်အသားတင် အမြတ် ၏ ၂ % ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဇွန် လ ၁၃ ရက်နေ့ တွင် ကျင်းပပြုလုပ်သော (၂၂/၂၀၁၆)အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) B.O.Tစနစ်ဖြင့် ချင်းတွင်းမြစ်ရေတင် ရေသန့်စက်ရုံတည်ဆောက်ပြီး မုံရွာမြို့သုံးရေ ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ရန် Chin Crop (Myanmar) Co., Ltd. နှင့် မုံရွာမြို့ နယ်စည်ပင် သာယာရေးကော်မတီတို့ သဘောတူစာချုပ် ချုပ်ဆိုထားပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ Aqua Pura Co., Ltd. အမည်ဖြင့် စစ်ကိုင်းတိုင်းဒေသ ကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက်တင်ပြထားပါသည်။

(ခ) Chin Crop (Myanmar) Co., Ltd. မှ ကုမ္ပဏီခွဲတစ်ခုဖြစ်သည့် Aqua Pura Co., Ltd. အမည်ဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြောင်းလဲအဆိုပြုတင်ပြ ခြင်းကို မုံရွာမြို့နယ်စည်ပင် သာယာရေးကော်မတီမှ သဘောတူလက်ခံပါကြောင်းနှင့် Chin Crop (Myanmar) Co., Ltd. (BOD အစည်းအဝေး) မှ သဘောတူဆုံးဖြတ် ထားကြောင်း တင်ပြထားပါသည်။

(ဂ) Aqua Pura Co., Ltd. သည် မုံရွာမြို့နယ်စည်ပင် သာယာရေးကော်မတီအား မြေငှားရမ်းခအဖြစ် တစ်နှစ်လျှင် ငွေကျပ် ၃,၆၀၀,၀၀၀ (ကျပ် သုံးဆယ့်ခြောက်သိန်း တိတိ) ကို ပေးသွင်းရမည် ဖြစ်ပါသည်။

(ဃ) Aqua Pura Co., Ltd. သည် ချင်းတွင်းမြစ်ရေတင် ရေသန့်စက်ရုံစီမံကိန်းမှ သန့်စင်၍ ထွက်ရှိလာသောရေအား စီးပွားဖြစ် ဖြန့်ဖြူးရောင်းချ၍ အခွန်ငွေ အားလုံးပေးဆောင်ပြီးရရှိလာသော အသားတင်အကျိုးအမြတ်၏ ၂၀% အား မုံရွာ မြို့နယ်စည်ပင် သာယာရေးကော်မတီအား ခွဲဝေပေးရမည်ဖြစ်ပါသည်။

(င) ပထမနှစ်တွင် ရေသန့်စင်စက်ရုံဖြန့်ဖြူးခြင်းပိုက်လိုင်းမှတစ်ဆင့် အိမ်ရှေ့ရေတိုင်အထိ ရေ (၁) ပေပါ ဂါလံ (၅၀) လျှင် ၁၆၀ ကျပ်နှုန်းနှင့်တူညီသော၊ ရေမီတာ တစ်ယူနစ် (၁) ကုဗမီတာ (၂၂၀) ဂါလံအား ၇၀၀ ကျပ်နှုန်းဖြင့် ပထမနှစ်အတွက် ကောက်ခံသွား မည်ဖြစ်ပါသည်။

(စ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် မုံရွာမြို့နယ်စည်ပင်သာယာရေး ကော်မတီမှ အသုံးပြုလျက်ရှိသော မြေဖြစ်ကြောင်း စစ်ကိုင်းတိုင်း အေးချမ်းသာယာ

ရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ခွင့်ပြုထားခဲ့ပြီး လယ်ယာမြေအသုံးပြုခွင့် (လယ-၃၀) လျှောက်ထားဆဲဖြစ်ကြောင်း မြေရာဇဝင်ကို စိစစ်တွေ့ရှိရပါသည်။

(ဆ) ပြည်ပမှ အောက်ဖော်ပြပါ ယာဉ်ယန္တရားများ အပါအဝင် အမေရိကန်ဒေါ်လာ ၅.၀၈ သန်း တန်ဖိုးရှိ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းဆောင်ရွက်မည်ဖြစ်ပြီး လူစီးမော်တော်ယာဉ်များအား အခွန်ပေးဆောင် တင်သွင်းရမည်ဖြစ်ပါသည်-

| **အမျိုးအစား** | **အရေအတွက်(စီးရေ)** | **ဈေးနှုန်း(US$)** | **စုစုပေါင်းတန်ဖိုး** |
|---|---|---|---|
| Toyota Vigo 3.0 (2014) | ၂ | ၂၅,၀၀၀ | ၅၀,၀၀၀ |

(ဇ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် အောက်ပါရေပေးဝေရေးလုပ်ငန်းအား ခွင့်ပြုမိန့်ထုတ်ပေးခဲ့ပြီးဖြစ်ပါ သည်-

| **ကုမ္ပဏီအမည်** | **ခွင့်ပြုမိန့် အမှတ်/ ရက်စွဲ** | **လုပ်ငန်းအမျိုးအစား** | **တည်နေရာ** | **ရင်းနှီးမြှုပ်နှံမှုပုံစံ** |
|---|---|---|---|---|
| Tarchileik (Eastern Shan State) Water Supply Co., Ltd. (တာချီလိတ် (ရှမ်းအရှေ့) ရေပေးဝေရေးကုမ္ပဏီလီမိတက်) | မနသ-၁၂၀၈/ ၂၀၁၆ (၁၆-၉-၂၀၁၆) | B.O.T စနစ်ဖြင့် တာချီလိတ်မြို့တွင်းသုံးရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်း | ရှမ်းပြည်နယ်၊ တာချီလိတ်ခရိုင်၊တာချီလိတ်မြို့နယ်၊ လွယ်တော်ခမ်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၈၅)၊ ဦးပိုင် အမှတ် (၁၈) ရှိ မြေဧရိယာ(၅.၂၂ ဧက) နှင့် ကွင်းအမှတ် (၁၈၅-အားဟီ)၊ ဦးပိုင်အမှတ် (၇၄) ရှိ မြေဧရိယာ (၃.၉၂ ဧက) | မြန်မာနိုင်ငံသား |

**ဆုံးဖြတ်ရန်အချက်**

၁၆။ သို့ဖြစ်ပါ၍ မုံရွာမြို့နယ် စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co., Ltd. တို့မှ B.O.T စနစ်ဖြင့် ချင်းတွင်းမြစ်ရေတင် ရေသန့်စက်ရုံတည်ဆောက်၍ မုံရွာမြို့သုံးရေဖြန့်ဖြူးခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့

စာအမှတ်၊၄/၇-၅(၃)/( ၆၅၁ )စည်ပင်(ရေ)
ရက် စွဲ ၊ ၂၀၁၆ ခု နှစ် ၊အောက်တိုဘာလ ၂၆ ရက်

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၅. ၈. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ မ-၀၂၀/၂၀၁၆(၄၂၇)

၁။ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.Ltd တို့မှ မုံရွာမြို့နယ် စည်ပင်သာယာရေးကော်မတီ၏ အမှတ်(၆၆)၊ ကွင်းအမှတ်(၆၇၉)၊ ဦးပိုင်အမှတ်(၆၅/၆၆/၇၄)၊ လှေကူး ကွေ့ကြီးကွင်း၊ ကမ်းနားလမ်း၊ ရုံးကြီးရပ်ကွက်၊ မုံရွာမြို့ချင်းတွင်းမြစ်ရေတင် စက်ရုံမြေနေရာ၏(၁. ၄၈) ဧကတွင် BOT စနစ်ဖြင့် ရေယူအဆောက်အဦ၊ ဆက်စပ်အဆောက်အအုံများ တည်ဆောက်ခြင်းနှင့် ရေသန့်စက်တပ်ဆင် တည်ဆောက်ခြင်းများ ဆောင်ရွက်ပြီး မုံရွာမြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ရည်ညွှန်းပါစာဖြင့် တောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စပါကိစ္စနှင့်စပ်လျဉ်း၍ ကွင်းဆင်းစစ်ဆေးချက်များအရ အောက်ပါအတိုင်း တွေ့ရှိရ ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း မရှိပါ၊

(ခ) မုံရွာမြို့နေ ပြည်သူလူထုထံသို့ ရေကောင်းရေသန့်များကို ဈေးနှုန်းသက်သာစွာဖြင့် ဖြန့်ဝေပေးနိုင်မည်ဖြစ်သဖြင့် ပြည်သူတို့၏ လူမှုစီးပွားကိုထိခိုက်နိုင်ခြင်း မရှိပါ၊

(ဂ) စီမံကိန်းလုပ်ငန်းတွင် ဒေသခံလုပ်သား(၂၀)ဦး ခန့်ထားမည်ဖြစ်သည့်အပြင် အိမ်တိုင်ရာရောက် ရေဖြန့်ဝေပေးနိုင်မည်ဖြစ်သဖြင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်၊

(ဃ) ရေဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်မည့်နေရာသည် မုံရွာမြို့နယ်စည်ပင်သာယာ ရေးကော်မတီပိုင် မြစ်ရေတင်ရေပေးဝေရေး စက်ရုံဖြစ်နေသဖြင့် စက်ရုံမြေ နေရာ ဖြစ်သဖြင့် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်၊

(င) လုပ်ငန်းဆောင်ရွက်မည့် မုံရွာမြို့ရုံးကြီးရပ်ကွက်၊ ကမ်းနားလမ်းကွင်းအမှတ်(၆၇၉)၊ ဦးပိုင်အမှတ်(၆၅၊ ၆၆၊ ၇၄)လှေကူးကွေ့ကြီးကွင်း၊ ဧရိယာ(၁. ၄၈)ဧကသည် အစိုးရမြေဖြစ်ပြီး

မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.Ltd တို့ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန် သဘောတူညီမှုရှိသည့် မြေနေရာဖြစ်ပါသည်။

(စ) မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.Ltd တို့ BOT စနစ်ဖြင့် ဆောင်ရွက်ခြင်းကြောင့် မုံရွာမြို့တွင်းရှိ ရပ်ကွက်များတွင် သန့်ရှင်းသော သောက်သုံးရေ ရရှိစေခြင်း၊ ပြည်သူများ အလုပ်အကိုင်အခွင့်အလမ်း ရရှိစေခြင်း၊ မုံရွာမြို့နယ်စည်ပင် သာယာရေးကော်မတီအနေဖြင့် ယင်းလုပ်ငန်းအား ဆောင်ရွက်ရန်အတွက် ရန်ပုံငွေ လုံလောက်မှုမရှိဘဲ ကုမ္ပဏီများနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်မှသာ အောင်မြင်နိုင်မည်ဖြစ် သောကြောင့် မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.Ltd တို့ BOT စနစ်ဖြင့် စာချုပ်ချုပ်ဆို ဆောင်ရွက်စေသင့်ပါကြောင်း စစ်ကိုင်းတိုင်းဒေသကြီး အစိုးရအဖွဲ့၏ (၂၉. ၉. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော Cabinet အစည်းအဝေး အမှတ်စဉ်(၁၄/၂၀၁၆) ဆုံးဖြတ်ချက်(၃၅)အရ ကန့်ကွက်ရန်မရှိ(မရှိ)ကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

(ဒေါက်တာမြင့်နိုင်)
ဝန်ကြီးချုပ်

မိတ္တူကို-

တိုင်းဒေသကြီးစည်ပင်သာယာရေးအဖွဲ့၊ မုံရွာမြို့
မြို့နယ်စည်ပင်သာယာရေးကော်မတီ၊ မုံရွာမြို့
Aqua Pura Co.Ltd
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
**ဝန်ကြီးရုံး**

နောက်ဆက်တွဲ-ခ

M4-690
20.6.16

စာအမှတ်၊ ပဆ-(၃)/(သဘောထား-DWIR)/၂၀၁၆(၈၆)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇွန်လ ၁၆ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**
ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၆-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/မ-၀၂၀/၂၀၁၆(၃၃၄)

P-720
20.6.16

၁။ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.,Ltd. တို့မှ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ၏ အမှတ်(၆၆)၊ လှေကူးကွေ့ကြီးကွင်း၊ ကမ်းနားလမ်း၊ ရုံးကြီးရပ်ကွက်၊ မုံရွာမြို့ ချင်းတွင်းမြစ်ရေတင် စက်ရုံမြေနေရာ၏ (၁.၄၈) ဧကတွင် B.O.T စနစ်ဖြင့် ရေယူအဆောက်အအုံနှင့် ဆက်စပ်အဆောက်အအုံများ တည်ဆောက်ခြင်းနှင့် ရေသန့်စက် တပ်ဆင်တည်ဆောက်ခြင်းများ ဆောင်ရွက်ပြီး မုံရွာမြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်း လုပ်ငန်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာခြင်းဖြစ်ပါသည်။

၂။ အဆိုပါ မုံရွာမြို့တွင်း ရေပေးဝေဖြန့်ဖြူးခြင်း လုပ်ငန်းမှ ရေရယူသုံးစွဲမည့် မုံရွာမြို့၊ စည်ပင်ရေတင်စက်အနီး ရေလမ်းမှာ နှစ်စဉ် ရေလမ်းကြောင်းကပ်လျက် စီးဆင်းနေ၍ တည်ငြိမ်သော ရေလမ်းကြောင်းဖြစ်ပြီး ကမ်းပါးတည်ငြိမ်မှု ရှိပါသည်။ စည်ပင်ရေတင်စက် အသုံးပြုနေသည်မှာလည်း (၇)နှစ်ခန့် ကြာမြင့်ခဲ့ပြီး အခက်အခဲမရှိ ရေပေးဝေနိုင်ခဲ့ကြောင်း တွေ့ရှိရပါသည်။

၃။ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မိုးလေဝသနှင့်ဇလဗေဒ ညွှန်ကြားမှုဦးစီးဌာနက ၂၀၁၄ ခုနှစ်အတွင်း ရေထုထည် စီးဆင်းမှုပမာဏ တိုင်းတာချက်များအရ ရေများချိန်ကာလ (မုံရွာရေမှတ် ၉၉၂ cm)တွင် ချင်းတွင်း မြစ်၏ ရေထုထည် စီးဆင်းနှုန်းမှာ (၁၇၆၃၈ $m^3$/Sec)နှင့် ရေနည်းချိန်ကာလ (မုံရွာရေမှတ် ၂၅၀ cm)တွင် (၁၄၇၇ $m^3$/Sec) ဖြစ်ပါသည်။ သို့ပါ၍ ရေများချိန်ကာလတွင် (၁၅၂၄ million $m^3$/day) နှင့် ရေနည်းချိန်ကာလတွင် (၁၂၇.၆ million $m^3$/day)ဖြစ်ပါသည်။ အဆိုပါ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်း အနေဖြင့် ရေစုပ်တင်ပြီး သုံးစွဲမည့်ပမာဏမှာ အများဆုံး အနေဖြင့် (၁.၈၂၅ million $m^3$/day) ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.,Ltd. တို့ B.O.T စနစ်ဖြင့် ဆောင်ရွက်မည့် မုံရွာမြို့တွင်း ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းမှ ထုတ်ယူသုံးစွဲမည့် ရေပမာဏသည် စီးဆင်းနေသော ရေထုထည်ထက် များစွာ လျော့နည်းသည့်အတွက် နေ့စဉ် ထုတ်ယူသုံးစွဲခြင်းဖြင့်

C:\Users\User\Documents\Thahawthar(Rep;)new.doc

ချင်းတွင်းမြစ် ရေစီးရေလာနှင့် မြစ်ကြောင်းစီးဆင်းမှု အနေအထားတို့အား ထိခိုက်နိုင်ဖွယ် မရှိပါကြောင်းနှင့် ရေအသုံးပြုသူက ပေးဆောင်ရမည့် ရေအသုံးပြုခနှင့် ပတ်သက်၍ နောင်ဖြစ်ပေါ်လာမည့် ရေဥပဒေအား လိုက်နာဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို -

- ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
- မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ
- Aqua Pura Co.,Ltd.

နောက်ဆက်တွဲ-ဂ

M4-686
17.6.16

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဂဂ၁/ MIC(OSS) /၀၁(၁၈၁/၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် ဇွန် လ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Aqua Pura Co.,Ltd မှ BOTစနစ်ဖြင့် မုံရွာမြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၆-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ မ-၀၂၀/ ၂၀၁၆(၃၃၂)

၁။ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.,Ltd မှ စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့နယ်၊ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ၏အမှတ်(၆၆)၊ကွင်းအမှတ်(၆၇၉)၊ ဦးပိုင်အမှတ် (၆၅/၆၆/၇၄) လေ့ကူးကွေ့ကြီးကွင်း၊ ကမ်းနားလမ်း၊ ရုံးကြီးရပ်ကွက်၊ မုံရွာမြို့ချင်းတွင်းမြစ်ရေတင်စက်ရုံမြေနေရာ၏ (၁.၄၈)ဧကတွင်BOTစနစ်ဖြင့်ရေယူအဆောက်အအုံများတည်ဆောက်ခြင်းနှင့်ရေသန့်စက်တပ်ဆင်တည်ဆောက်ခြင်းများဆောင်ရွက်ပြီး မုံရွာမြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်သက်တမ်းတိုး (၁၀)နှစ်(၂) ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁၈)လဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေးအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်များကိုထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ဝန်ထမ်းများအတွက်သန့်စင်ခန်းများအား

အလုံအလောက်ထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ ရေနုတ်မြောင်းများမှအနံ့များ မရှိအောင် ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင် ပြုပြင်ခြင်းစသည့်တို့ကိုဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Aqua Pura Co.,Ltd မှ မြို့တွင်းရေးပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် ရေပိုက်များသွယ်တန်းရန်အတွက် မြေသားတူးဖော်ခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် ကားလမ်း၊ မီးရထားလမ်း၊ ဘုရားပုထိုးစေတီ၊ သာသနိကအဆောက်အအုံများ၊ လူနေရပ်ကွက်များကို ဖြတ်သန်းဆောင်ရွက်ရမည်ဖြစ်သဖြင့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုသာမက လူမှုရေးဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ခြင်း၊ ရေယူအဆောက်အအုံနှင့်ဆက်စပ်အဆောက်အအုံများ၊ ရေသန့်စင်စက်ရုံများတည်ဆောက်ရာတွင် စက်ယန္တရားကြီးများအသုံးပြု၍ဆောင်ရွက်ပါက ထွက်ရှိလာမည့်အမဲဆီ၊ အင်ဂျင်ဝိုင်၊ စက်မောင်းဆီများကြောင့် ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်းခြင်း၊ ရေအရင်းအမြစ်ရယူမည့် ချင်းတွင်းမြစ်ရေ၏ အရည်အသွေးအား အပတ်စဉ်၊ လစဉ်စစ်ဆေးခြင်းမရှိခြင်းနှင့် မြစ်ရေတင်ရေသန့်စက်ရုံများတွင် စံချိန်စံညွှန်းပြည့်မီအောင် စနစ်တကျသန့်စင်ခြင်းများဆောင်ရွက်ခြင်းမရှိပါက ပြည်သူလူထု၏ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Aqua Pura Co.,Ltd မှ BOT စနစ်ဖြင့် မုံရွာမြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး( သို့မ

ဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း** (Initial Environmental Examination - IEE) ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များအတိုင်းအစီရင်ခံစာရေးသားတင်ပြရန်နှင့်ဝန်ကြီးဌာနမှလိုအပ်ပါက **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း**(Environmental Impact Assessment-EIA)ကို ဆက်လက်ဆောင်ရွက်ရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan – EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁ | Aqua Pura Co., Ltd. | (၁) ဦးအေးထွန်းအောင် မန်နေဂျင်းဒါရိုက်တာ ၉/ကဆန (ဧည့်) ၀၀၀၀၇၂ | အမှတ် (ပ)၊ ဗဘာဂဝတီရပ်ကွက်၊ ပေါက်တောလမ်း၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ |
| | | (၂) ဒေါ်လဲ့လဲ့ဝင်း ဒါရိုက်တာ ၉/မတရ (နိုင်) ၁၄၀၃၄၄ | အမှတ် (ပ)၊ ဗဘာဂဝတီရပ်ကွက်၊ ပေါက်တောလမ်း၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ |
| | | (၃) Chin Crop (Myanmar) Co.,Ltd. Represented by | |
| | | (၁) ဦးရင်ထွေး ဒါရိုက်တာ ၁၂/တခလ (နိုင်) ၀၃၈၃၁၆ | အမှတ် (၂၁၆/၂၂၂)၊ (စီ-၇)၊ မဟာဗန္ဓုလလမ်း၊ (၁) ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | | (၂) ဦးရင်လေး ဒါရိုက်တာ ၉/မရတ (နိုင်) ၁၀၅၅၄၁ | အမှတ် (၃-ဂျီ)၊ မိုးကောင်းလမ်း၊ (၁၄) ရပ်ကွက်၊ မြကန်သာအိမ်ယာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉-၇၉၈၇၀၅၃၈၅

၂။ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - အမှတ်(ပ)၊ဗဘာဂဝတီရပ်ကွက်၊ပေါက်တောလမ်း၊ကျောက်ဆည်မြို့နယ်၊မန္တလေးတိုင်းဒေသကြီး။

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးအေးထွန်းအောင်(မန်းနေဂျင်းဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ချင်းတွင်းမြစ်ရေတင် ရေသန့်စင်စက်ရုံ တည်ဆောက်၍ မုံရွာမြို့သုံးရေ ဖြန့်ဖြူးခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - ၂၂၃၀/ ၂၀၁၅-၂၀၁၆ (ရက)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၂၀-၁၀-၂၀၂၀

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

မှန်ကန်သည်

နောက်ဆက်တွဲ ( ၄ )

# Aqua Pura Co., Ltd.

## Machinery List

to be imported

| Sr. No. | Particulars | A/U | Qty. | Price ( US$ ) | Value ( US$ ) |
|---|---|---|---|---|---|
| I | Imported | | | | |
| 1 | Actiflo Technology WTP 6000 m3 /day | set | 2 | 800,000 | 1,600,000 |
| 2 | Pump 30 Hp, 380V, 50 Hz | set | 4 | 6,500 | 26,000 |
| 3 | Control Panel and Accessories Plant | set | 1 | 40,000 | 40,000 |
| 4 | Overhead Tank 30000 Gls with iron structure(GRP Tank) China | set | 4 | 40,000 | 160,000 |
| 5 | Water Meter | unit | 13000 | 35 | 455,000 |
| 6 | HDPE Pipe Joint Machine | set | 2 | 6,000 | 12,000 |
| 7 | Diesel Gererator 500 KVA (Stand By) | unit | 2 | 30,000 | 60,000 |
| | **Total** | | | | **2,353,000** |

Local Purchase

| Sr. No. | Particulars | A/U | Qty. | Price ( Kyat ) | Value ( Kyat ) |
|---|---|---|---|---|---|
| II | **Local Purchase** | | | | |
| 1 | Transformer 315 KVA (11/0.4 KV) | 1 | 1 | 24402100 | 24,402,100 |
| | **Total** | | | | **24,402,100** |

မှန်ကန်သည်

နောက်ဆက်တွဲ ( ၄-၁ )

# Aqua Pura Co., Ltd.

## Vehicle List

to be imported

| Sr. No. | Particulars | A/U | Qty. | Price ( US$ ) | Value ( US$ ) |
|---|---|---|---|---|---|
| 1 | Excavator 8 ton (Doosan Korea) | set | 2 | 70,000 | 140,000 |
| 2 | Hydraulic Hammer | set | 2 | 8,000 | 16,000 |
| 3 | Toyota Vigo 3.0 (2014) | unit | 2 | 25,000 | 50,000 |
| | Total | | | | **206,000** |

မှတ်ချက်။ အမှတ်စဉ် ၃ အားကျသင့်သောအခွန်များပေးဆောင်ပြီးတင်သွင်းမည်ဖြစ်ကြောင်းကတိပြုပါသည်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်

ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်ရင်းနှီးမြှုပ်နှံလိုသူ၏ဆောင်ရွက်ရန်

မုံရွာမြို့ရေပေးဝေရေးလုပ်ငန်း

# အဆိုပြုချက်

# အကွာပူရကုမ္ပဏီလီမိတက်

==========================================

PROPOSAL OF THE INVESTMENT TO MAKE

MYANMAR CITIZENS INVESTMENT

IN THE UNION OF MYANMAR

# AQUA PURA COMPANY LIMITED

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့

စာအမှတ်၊၄/၇-၅(၃)/( ၆၀၀ )စည်ပင်(ရေ)

ရက် စွဲ ၊ ၂၀၁၆ ခု နှစ် ၊ နိုဝင်ဘာလ ၂၃ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်းမကြီး၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ BOT စနစ်ဖြင့် ချင်းတွင်းမြစ်ရေတင် ရေသန့်စင်စက်ရုံ တည်ဆောက်၍ မုံရွာမြို့ ရေပေးဝေရေးလုပ်ငန်းအား ခွင့်ပြုပေးပါရန် အဆိုပြုပေးပို့ခြင်း**

၁။ မုံရွာမြို့ချင်းတွင်းမြစ်ရေတင်ရေပေးဝေရေးလုပ်ငန်းနှင့် စပ်လျဉ်း၍ စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ၊ တိုင်းဒေသကြီးစည်ပင်သာယာရေးအဖွဲ့၊ မုံရွာမြို့နယ်စည်ပင် သာယာရေးကော်မတီ၊ Aquapura Co.Ltdတို့ တွေ့ဆုံဆွေးနွေးပွဲများပြုလုပ်ခဲ့ရာ ညှိနှိုင်းချက်များအရ မုံရွာမြို့နယ်စည်ပင်သာယာရေး ကော်မတီ၏ အမှတ်(၆၆)၊ ကွင်းအမှတ်(၆၇၉)၊ ဦးပိုင်အမှတ်(၆၅/၆၆/၇၄)၊ လှေကူး ကွေ့ကြီးကွင်း၊ ကမ်းနားလမ်း၊ ရုံးကြီးရပ်ကွက်တွင် ရှိသော ချင်းတွင်းမြစ်ရေတင်စက်ရုံမြေနေရာ(၁. ၄၈) ဧကပေါ်တွင် ချင်းတွင်းမြစ်ရေတင် ရေသန့်စင် စက်ရုံ တည်ဆောက်၍ မုံရွာမြို့ပေါ်ရှိရပ်ကွက်များသို့ ဖြန့်ဖြူးပေးနိုင်ရန်အတွက် မုံရွာမြို့နယ်စည်ပင်သာယာရေး ကော်မတီနှင့် Aquapura Co.Ltd တို့ BOT စာချုပ်ချုပ်ဆိုနိုင်ရေး ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ နှစ်ဦးသဘောတူ BOT စာချုပ်အား ပြင်ဆင်ရေးဆွဲခဲ့ပြီးဖြစ်ပါသည်။

၂။ မုံရွာမြို့တွင်ချင်းတွင်းမြစ်ရေတင် ရေသန့်စင်စက်ရုံ တည်ဆောက်၍ ရေပေးဝေရေးလုပ်ငန်းအား BOT စနစ်ဖြင့် စာချုပ်ချုပ်ဆိုဆောင်ရွက်နိုင်ရေး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မတီရှင်ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုပေးပါရန် အဆိုပြုပေးပို့ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)

(မြင့်ကြည်၊ ဝန်ကြီး၊ စည်ပင်သာယာရေးဝန်ကြီးဌာန)

မိတ္တူကို-

Aquapura Co.Ltd

လက်ခံစာတွဲ

မျှောစာတွဲ

D:TZT\TZT(2016)\Thant Zin Htun

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့

စာအမှတ်၊၄/၇-၅(၃)/( ၆၃၁ )စည်ပင်(ရေ)
ရက် စွဲ ၊ ၂၀၁၆ ခု နှစ် ၊အောက်တိုဘာလ ၂၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၅. ၈. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ မ-၀၂၀/ ၂၀၁၆(၄၂၇)

၁။ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.Ltd တို့မှ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ၏ အမှတ်(၆၆)၊ ကွင်းအမှတ်(၆၇၉)၊ ဦးပိုင်အမှတ်(၆၅/၆၆/၇၄)၊ လှေကူး ကွေ့ကြီးကွင်း၊ ကမ်းနားလမ်း၊ ရုံးကြီးရပ်ကွက်၊ မုံရွာမြို့ချင်းတွင်းမြစ်ရေတင် စက်ရုံမြေနေရာ၏(၁. ၄၈) ဧကတွင် BOT စနစ်ဖြင့် ရေယူအဆောက်အဦ၊ ဆက်စပ်အဆောက်အအုံများ တည်ဆောက်ခြင်းနှင့် ရေသန့်စက်တပ်ဆင် တည်ဆောက်ခြင်းများ ဆောင်ရွက်ပြီး မုံရွာမြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ရည်ညွှန်းပါစာဖြင့် တောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စပါကိစ္စနှင့်စပ်လျဉ်း၍ ကွင်းဆင်းစစ်ဆေးချက်များအရ အောက်ပါအတိုင်း တွေ့ရှိရပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း မရှိပါ၊

(ခ) မုံရွာမြို့နေ ပြည်သူလူထုထံသို့ ရေကောင်းရေသန့်များကို ဈေးနှုန်းသက်သာစွာဖြင့် ဖြန့်ဝေပေးနိုင်မည်ဖြစ်သဖြင့် ပြည်သူတို့၏ လူမှုစီးပွားကိုထိခိုက်နိုင်ခြင်း မရှိပါ၊

(ဂ) စီမံကိန်းလုပ်ငန်းတွင် ဒေသခံလုပ်သား(၂၀)ဦး ခန့်ထားမည်ဖြစ်သည့်အပြင် အိမ်တိုင်ရာရောက် ရေဖြန့်ဝေပေးနိုင်မည်ဖြစ်သဖြင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်၊

(ဃ) ရေဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်မည့်နေရာသည် မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီပိုင် မြစ်ရေတင်ရေပေးဝေရေး စက်ရုံဖြစ်နေသဖြင့် စက်ရုံမြေ နေရာ ဖြစ်သဖြင့် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်၊

(င) လုပ်ငန်းဆောင်ရွက်မည့် မုံရွာမြို့ရုံးကြီးရပ်ကွက်၊ ကမ်းနားလမ်းကွင်းအမှတ်(၆၇၉)၊ ဦးပိုင်အမှတ်(၆၅၊ ၆၆၊ ၇၄)လှေကူးကွေ့ကြီးကွင်း၊ ဧရိယာ(၁. ၄၈)ဧကသည် အစိုးရမြေဖြစ်ပြီး

မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.Ltd တို့ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန် သဘောတူညီမှုရှိသည့် မြေနေရာဖြစ်ပါသည်။

(စ) မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.Ltd တို့ BOT စနစ်ဖြင့် ဆောင်ရွက်ခြင်းကြောင့် မုံရွာမြို့တွင်းရှိ ရပ်ကွက်များတွင် သန့်ရှင်းသော သောက်သုံးရေ ရရှိစေခြင်း၊ ပြည်သူများ အလုပ်အကိုင်အခွင့်အလမ်း ရရှိစေခြင်း၊ မုံရွာမြို့နယ်စည်ပင် သာယာရေးကော်မတီအနေဖြင့် ယင်းလုပ်ငန်းအား ဆောင်ရွက်ရန်အတွက် ရန်ပုံငွေ လုံလောက်မှုမရှိဘဲ ကုမ္ပဏီများနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်မှသာ အောင်မြင်နိုင်မည်ဖြစ် သောကြောင့် မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.Ltd တို့ BOT စနစ်ဖြင့် စာချုပ်ချုပ်ဆို ဆောင်ရွက်စေသင့်ပါကြောင်း စစ်ကိုင်းတိုင်းဒေသကြီး အစိုးရအဖွဲ့၏ (၂၉. ၉. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော Cabinet အစည်းအဝေး အမှတ်စဉ်(၁၄/၂၀၁၆) ဆုံးဖြတ်ချက်(၃၅)အရ ကန့်ကွက်ရန်မရှိ(မရှိ)ကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

(ဒေါက်တာမြင့်နိုင်)
ဝန်ကြီးချုပ်

မိတ္တူကို-

တိုင်းဒေသကြီးစည်ပင်သာယာရေးအဖွဲ့၊ မုံရွာမြို့
မြို့နယ်စည်ပင်သာယာရေးကော်မတီ၊ မုံရွာမြို့
Aqua Pura Co.Ltd
လက်ခံစာတွဲ
မျှောစာတွဲ

# AQUA PURA CO., LTD.

No.258/262, 11 Floor, Strand Road, Classic Strand,
Pabedan Township, Yangon, Myanmar

Tel: 95-1-387066/371630
Fax: 95-1-249824


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်းမကြီး၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

ရက်စွဲ - ၂၀၁၆ ခုနှစ် နိုဝင်ဘာလ (    ) ရက်။

အကြောင်းအရာ။ ။ **<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။</u>**

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ **Aqua Pura Co.,Ltd.** သည် စစ်ကိုင်းတိုင်း၊ မုံရွာမြို့နယ်၊ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ၏ အမှတ် (၆၆)၊ ကွင်းအမှတ် (၆၇၉)၊ ကမ်းနားလမ်း၊ ရုံးကြီးရပ်ကွက်၊ မုံရွာမြို့ချင်းတွင်းမြစ်ရေတင်စက်ရုံမြေနေရာ၏ (၁.၄၈) ဧကတွင် ရေယူအဆောက်အအုံနှင့်ဆက်စပ်အဆောက်အအုံများ တည်ဆောက်ခြင်းနှင့်ရေသန့် စက်တပ်ဆင်တည်ဆောက်ခြင်းများ ဆောင်ရွက်ပြီးမုံရွာမြို့တွင်းသို့ ရေပေးဝေ ဖြန့်ဖြူးခြင်းလုပ်ငန်းကိုကနဦးနှစ် (၃၀) နှင့် နောက်ထပ် (၁၀) နှစ် နှစ်ကြိမ် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် (၁၃-၀၆-၂၀၁၆) ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၂/၂၀၁၆) ကြိမ်မြောက်အစည်းအဝေး သို့ တင်ပြခဲ့ပြီး အဆိုပါအစည်းအဝေး၏ ဆုံးဖြတ်ချက်နှင့်အညီအဆိုပြုလွှာအားပြင်ဆင်ပြီး ဖြစ်သဖြင့် ခွင့်ပြုပေးနိုင်ပါရန် အဆိုပြုလွှာ (    ) စုံကို ပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဦးအေးထွန်းအောင်
မန်နေဂျင်းဒါရိုက်တာ
**Aqua Pura Co., Ltd.**

# AQUA PURA CO., LTD.

No.258/262, 11 Floor, Strand Road, Classic Strand,
Pabedan Township, Yangon, Myanmar.

Tel: 95-1-387066/371630
Fax: 95-1-249824

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊သစ္စာလမ်းမကြီး၊ရန်ကင်းမြို့နယ်

ရန်ကုန်မြို့။

ရက်စွဲ - ၂၀၁၆ ခုနှစ်စက်တင်ဘာလ (၂၈) ရက်။

အကြောင်းအရာ။ ။ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းကတိပြုတင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၀၇-၂၀၁၆ ရက်စွဲပါစာအမှတ် မရက-၅ (အ) / မ-၀၂၀ / ၂၀၁၆(၃၅၇)။

ရည်ညွှန်းချက်ပါမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏လိုက်နာရန်အကြောင်းကြားစာပါအရကျွန်တော်များကုမ္ပဏီမှအောက်ပါအတိုင်းလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းတင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများလျော့နည်းစေရေးလုပ်ငန်းဆိုင်ရာအချက်အလက်များပြည့်စုံစွာဖေါ်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအသုံးပြုသွားမည်ဖြစ်ပါကြောင်းနှင့်လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ (၂%) အသုံးပြုခြင်းအပါအဝင်ကတိကဝတ်များအားလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းကတိပြုပါသည်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့်ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက်ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination IEE) ကိုဆောင်ရွက်ပြီးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းများအတိုင်းအစီရင်ခံစာရေးသားတင်ပြရန်နှင့်ဝန်ကြီးဌာနမှလိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment –EIA) ကိုဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုတင်ပြပါသည်။

(ဂ) အထက်ပါဆန်းစစ်ချက်များကိုအခြေခံ၍ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းအစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ် စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲ

# AQUA PURA CO., LTD.

No.258/262, 11 Floor, Strand Road, Classic Strand,
Pabedan Township, Yangon, Myanmar.

Tel: 95-1-387066/371630
Fax: 95-1-249824

မည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြမည်ဖြစ်ကြောင်းနှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖေါ်ဆောင်ရွက်မည်ဖြစ်ကြောင်း ကတိပြုတင်ပြအပ်ပါသည်။

(ဃ) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ လုပ်ထုံးလုပ်နည်းများအမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း ကတိပြုပါသည်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့်ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအေးထွန်းအောင်

မန်နေဂျင်းဒါရိုက်တာ

Aqua Pura Co., Ltd.

# AQUA PURA CO., LTD.

No.258/262, 11 Floor, Strand Road, Classic Strand,
Pabedan Township, Yangon, Myanmar.

Tel: 95-1-387066/371630
Fax: 95-1-249824

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်းမကြီး ၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

ရက်စွဲ - ၂၀၁၆ ခုနှစ် စက်တင်ဘာလ ( ၂၈ ) ရက်။

အကြောင်းအရာ။ ။ ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၏သဘောထားမှတ်ချက်နှင့်အညီလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းကတိပြုတင်ပြခြင်း။

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ **Aqua Pura Co.,Ltd.** သည် စစ်ကိုင်းတိုင်း၊ မုံရွာမြို့နယ်၊ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ၏ အမှတ် (၆၆)၊ ကွင်းအမှတ် (၆၇၉)၊ ကမ်းနားလမ်း၊ ရုံးကြီးရပ်ကွက်၊ မုံရွာမြို့ချင်းတွင်းမြစ်ရေတင်စက်ရုံမြေနေရာ ၏ (၁. ၄၈) ဧကတွင် **B.O.T** စနစ်ဖြင့်ရေယူအဆောက်အအုံနှင့်ဆက်စပ်အဆောက်အအုံများတည်ဆောက်ခြင်းနှင့်ရေသန့်စက်တပ်ဆင် တည်ဆောက်ခြင်းများဆောင်ရွက်ပြီးမုံရွာမြို့တွင်းသို့ရေပေးဝေ ဖြန့်ဖြူးခြင်းလုပ်ငန်းကိုကနဦးနှစ် (၃၀)နှင့်နောက်ထပ် (၁၀) နှစ် နှစ်ကြိမ် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

ထိုသို့လုပ်ငန်းဆောင်ရွက်ရာတွင် ကမ်းပါးနယ်နှင့်ကမ်းနားနယ်အတွင်းရေယူအဆောက်အအုံနှင့်ဆက်စပ်အဆောက်အအုံများမတည်ဆောက်မီ ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနသို့ ခွင့်ပြုချက်လျှောက်ထားမည်ဖြစ်ပါကြောင်းနှင့်ကျသင့်အခွန်ပေးဆောင်ခြင်း၊ ရေအသုံးပြုသူပေးဆောင်ရမည့်ရေအသုံးပြုခနှင့်ပတ်သတ်၍နောင်ဖြစ်ပေါ်လာမည့်ရေဥပဒေအားလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းကတိပြုပါသည်။

လေးစားစွာဖြင့်

ကိုအေးထွန်းအောင်
မန်နေဂျင်းဒါရိုက်တာ
**Aqua pura Co.,Ltd.**

# AQUA PURA CO., LTD.

No.258/262, 11 Floor, Strand Road, Classic Strand,
Pabedan Township, Yangon, Myanmar.

Tel: 95-1-387066/371630
Fax: 95-1-249824

---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြုပ်နှံမှုကော်မရှင်

အမှတ်(၁)၊သစ္စာလမ်းမကြီး၊ရန်ကင်းမြို့နယ်

ရန်ကုန်မြို့။

ရက်စွဲ -၂၀၁၆ ခုနှစ်စက်တင်ဘာလ (၂၈) ရက်။

အကြောင်းအရာ။ ။ <u>မြေပိုင်ဆိုင်မှုအထောက်အထား ပုံစံ (၁၅-က)ရရှိရေးဆောင်ရွက်မည်ဖြစ်ကြောင်း ကတိပြုတင်ပြခြင်း။</u>

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ Aqua **Pura Co., Ltd.** သည် စစ်ကိုင်းတိုင်း၊ မုံရွာမြို့နယ်၊ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ၏ အမှတ် (၆၆)၊ ကွင်းအမှတ် (၆၇၉)၊ ကမ်းနားလမ်း၊ ရုံးကြီးရပ်ကွက်၊ မုံရွာမြို့ချင်းတွင်းမြစ်ရေတင်စက်ရုံမြေနေရာ ၏ (၁. ၄၈) ဧကတွင် B.O.T စနစ်ဖြင့်ရေယူအဆောက်အအုံနှင့်ဆက်စပ်အဆောက်အအုံများတည်ဆောက်ခြင်းနှင့်ရေသန့်စက်တပ်ဆင် တည်ဆောက်ခြင်းများဆောင်ရွက်ပြီးမုံရွာမြို့တွင်းသို့ရေပေးဝေ ဖြန့်ဖြူးခြင်းလုပ်ငန်းကိုကနဦးနှစ် (၃၀) နှင့် နောက်ထပ် (၁၀) နှစ် နှစ်ကြိမ် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

ထိုသို့လုပ်ငန်းဆောင်ရွက်ရာတွင် မြေပိုင်ဆိုင်မှုအထောက်အထားနှင့်စပ်လျဉ်း၍ ပုံစံ၁၅(က)ရရှိရေးဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးအေးထွန်းအောင်

မန်နေဂျင်းဒါရိုက်တာ

Aqua Pura Co., Ltd.

မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
မုံ ရွာ မြို့ နယ် ၊ မုံ ရွာ မြို့
စာအမှတ်၊ ၁၄၈ /မအ - ၃
ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ မေလ ( ၃ )ရက်

သို့

အမှုဆောင်အရာရှိ
မြို့နယ်စည်ပင်သာယာရေးကော်မတီ
မုံရွာမြို့

အကြောင်းအရာ။ **မြေရာဇဝင်ပြန်ကြားပေးပါရန်ကိစ္စ**

ရည် ညွှန်း ချက် ။ မြို့နယ်စည်ပင်သာယာရေးကော်မတီ၊ မုံရွာမြို့၏ (၁. ၅. ၂၀၁၆) ရက်စွဲပါစာအမှတ်၊ ၀၅၈၄/က-၃၃/မရ-၁(၂၁)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ မြို့နယ်စည်ပင်သာယာရေးကော်မတီပိုင် မုံရွာမြို့နယ် ရုံးကြီးရပ်ကွက်၊ကွင်းအမှတ်(၆၇၉)၊ ဦးပိုင်အမှတ်၊ ၆၅၊ ၆၆၊ ၇၄ ကွင်းအမည်-လှေကူးကွေ့ကြီး ဧရိယာ(၁. ၄၈)ဧက၊ မြေနေရာတွင် မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co; Ltd၊ ကုမ္ပဏီတို့ ပူးပေါင်း၍ ရေသန့်စင် စက်ရုံ တည်ဆောက်ပြီး ရပ်ကွက်များသို့ ရေသန့်ပေးဝေနိုင်ရေး အကောင်အထည်ဖော်ဆောင်ရွက်ရန် မြေငှားရမ်းခြင်း သဘောတူစာချုပ် ချုပ်ဆိုမည်ဖြစ်ပါ၍ ၎င်းနေရာ၏ မြေရာဇဝင်ပြန်ကြား ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါမြေဧရိယာ(၁. ၄၈)ဧကမှာ မူလက ကိုင်း(KY2)မြေမျိုးဖြစ်ပြီး (၁၉၉၉-၂၀၀၀) ခုနှစ်တွင် အမှတ်(၄၁) သစ်စက်အမည်ဖြင့် လ/န(၃၉) ခွင့်ပြုချက် မရှိဘဲ နှစ်(၃၀) မြေငှားဂရန်ချထားပေးခဲ့ပါသည်။ အဆိုပါ မြေငှားဂရန်အား ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ (၃၁. ၁၀. ၂၀၀၈) ရက်စွဲပါစာအမှတ်၊ ၄/၃၁-၉/ဦး ၁ (၁၀၄၁)ဖြင့် ပယ်ဖျက်ခဲ့ပါသည်။

၃။ (၂၀၀၉)ခုနှစ်တွင် တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ အစီအစဉ်ဖြင့် မြို့နယ်စည်ပင်သာယာရေးကော်မတီပိုင် "ချင်းတွင်းမြစ်ရေတင်စက်ရုံ" အဖြစ် အသုံးပြုစေခဲ့ပါသည်။ စစ်ကိုင်းတိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ (၁၀. ၉. ၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၅/၄၁-၅(၅၇၂၃)/ဦး ၆ဖြင့် လ/န(၃၉) အမှုတွဲဖွင့်လှစ်ခွင့်ပြုကြောင်း အကြောင်းကြားခဲ့ပါသည်။

၄။ သို့ဖြစ်ပါ၍ ၂၀၀၉ ခုနှစ်မှ ယနေ့အထိ မြို့နယ်စည်ပင်သာယာရေးကော်မတီမှ အသုံးချလျှက်ရှိသော မြေဖြစ်ပါကြောင်း စစ်ကိုင်းတိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ခွင့်ပြုထားခဲ့ပြီး လယ်ယာမြေအသုံးပြုခွင့် (လယ-၃၀) လျှောက်ထားဆဲ ဖြစ်ကြောင်း မြေရာဇဝင်ပြန်ကြားအပ်ပါသည်။

( စောသီဟ )
ဦးစီးအရာရှိ
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
မုံရွာမြို့

မိတ္တူကို -
- ရုံးလက်ခံ။

## မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ နှင့် Aqua PuraCo.,Ltdတို့အကြား ချုပ်ဆိုသော မြေ၊ အဆောက်အဦး နှင့် ရေပေးရေးဆိုင်ရာဆက်စပ်ပစ္စည်းများ ငှားရမ်းခြင်း

## သဘောတူစာချုပ်

ဤမြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ(၁)ရက်နေ့၌မုံရွာမြို့တွင် စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ ကိုယ်စားပြုသော ဦးထွန်းထွန်း၊မှတ်ပုံတင်အမှတ် - ၁၂/ သကတ (နိုင်) ၁၀၁၈၀၂၊ အမှုဆောင်အရာရှိ၊စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ (နောင်တွင် လုပ်ကိုင်ခွင့်ပြုသူဟု ခေါ်ဝေါ်သုံးစွဲပါမည်။ ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူတို့ ပါဝင်သည်။ )က တစ်ဖက် နှင့် ဦးအေးထွန်းအောင်၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ် - ၉/ကဆန(နိုင်) ၀၀၀၀၇၂၊ မန်နေဂျင်းဒါရိုက်တာ ကိုယ်စားပြုသော ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်း မြို့နယ်၊ Classic Strand Condo ၊ ကမ်းနားလမ်း၊ အမှတ် (၂၅၈-၂၆၂) တွင် ရုံးခန်းဖွင့်လှစ်ထားသော Aqua PuraCo.,Ltd (နောင်တွင် လုပ်ကိုင်ခွင့်ရသူဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ နှင့် ဥပဒေအရလွှဲ အပ်ခြင်း ခံရသူများ ပါဝင်သည်။ ) နှစ်ဦးနှစ်ဖက်တို့သည် အောက်ပါစည်းကမ်း ချက်များအား သဘောတူညီသဖြင့် ဤမြေငှားရမ်းခြင်း ဆိုင်ရာ သဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

### ရည်ရွယ်ချက်

စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့၊ရုံးကြီးရပ်ကွက်၊ကွင်းအမှတ် ( ၆၇၉ )၊ ဦးပိုင်အမှတ် (၆၅၊၆၆၊၇၄)၊ ကွင်းအမည် ( လေ့ကူး - ကျွဲကြီး )၊ ဧရိယာ ( ၁.၄၈ ) ဧကမြေနေရာတွင် မြစ်ရေတင် ရေသန့်စင် စက်ရုံတည်ဆောက်အကောင်အထည်ဖော်ဆောင်ရွက်သွားမည့် ဤမြေ၊ အဆောက်အဦး နှင့် ရေပေးရေးဆိုင်ရာ ဆက်စပ်ပစ္စည်းများ ငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် ချုပ်ဆိုကြခြင်း ဖြစ်ပါသည်။

### ၁။ အဓိပ္ပာယ်ဖွင့်ဆိုချက်

#### ၁ - ၁ ။ သဘောတူစာချုပ်

သဘောတူစာချုပ်ဆိုသည်မှာစစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့ပေါ်ရှိချင်းတွင်းမြစ်ရေတင်စက်ရုံဝင်း၊ ကွင်းအမည် ( လေ့ကူး - ကျွဲကြီး )၊ အကျယ်အဝန်းဧရိယာ ( ၁.၄၈ ) ဧကရှိမြေအားငှားရမ်း၍ Aqua PuraCo.,Ltd မှ မြစ်ရေတင်ရေသန့်စင်စက်ရုံတည်ဆောက် အကောင်အထည်ဖော် ဆောင်ရွက် သွားမည့် မြေငှားရမ်း ခြင်းဆိုင်ရာဤသဘောတူစာချုပ်ကိုဆိုလိုသည်။ ( မြေပုံကိုဤစာချုပ်၏ အစိတ်အပိုင်းတစ်ရပ် အဖြစ် နောက်ဆက်တွဲ - ၁ ဖြင့် စာချုပ်တွင် ပူးတွဲထားပါသည်။ )

#### ၁ - ၂ ။ ဘဏ္ဍာရေးနှစ်

ဘဏ္ဍာရေးနှစ်ဆိုသည်မှာ နှစ် တစ်နှစ် ၏ ဧပြီလ (၁) ရက်နေ့မှ နောက်တစ်နှစ် မတ်လ ( ၃၁ ) ရက်နေ့အထိ ( ၁၂ )လတာကာလကို ဆိုလိုသည်။

၁ - ၃ ။ ငှားရမ်းသည့်မြေ

ငှားရမ်းသည့်မြေ၊ အဆောက်အဦးနှင့် ရေပေးရေးဆိုင်ရာဆက်စပ်ပစ္စည်းများဆိုသည်မှာ စစ်ကိုင်းတိုင်းဒေသကြီး၊ အပိုဒ် ( ၁ - ၁ ) တွင် ပါဝင်သော မြေအဆောက်အဦးနှင့်ရေပေးရေးဆိုင်ရာ ဆက်စပ်ပစ္စည်းများကို ဆိုလိုသည်။

၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၂ - ၁။ လုပ်ကိုင်ခွင့်ပြုသူသည် ဤစာချုပ်တွင်ဖော်ပြထားသော စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့ပေါ်ရှိ မြေဧရိယာ ( ၁.၄၈ ) ဧကရှိသော ချင်းတွင်းမြစ်ရေတင်စက်ရုံဝင်း၊ ကွင်းအမည် ( လေပုကူး - ကျွေကြီး ) ၏ မြေယာ စီမံခန့်ခွဲမှုရှိသော ကိစ္စရပ်များကို တရားဝင်စီမံခန့်ခွဲပိုင်ခွင့်ရှိသော အာဏာပိုင်အဖွဲ့အစည်းဖြစ်ပါသည်။

၂ - ၂။ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ မြေဧရိယာ ( ၁.၄၈ ) ဧကပေါ်တွင် နှစ်ရှည်ငှားရမ်းရန်နှင့် ချင်းတွင်းမြစ်ရေတင် ရေသန့်စင်စက်ရုံတည်ဆောက်ရန်အတွက် ငွေကြေးအင်အား၊ ပစ္စည်းအင်အား၊အတတ်ပညာအင်အားများရှိပြီး စာချုပ်ပါအတိုင်း ဆောင်ရွက်နိုင်စွမ်းရှိသူဖြစ်ပါသည်။

၃။ မြေငှားရမ်းခြင်းကာလသတ်မှတ်ခြင်း

၃ - ၁။ လုပ်ကိုင်ခွင့်ပြုသူသည် ဤသဘောတူစာချုပ် အပိုဒ် ( ၁ - ၁ ) ပါ မုံရွာမြို့ပေါ်ရှိ မြေဧရိယာ ( ၁.၄၈ ) ဧကမြေကို အငှားချထားခြင်းခံရသူထံသို့ နှစ်ရှည်ငှားရမ်း၍ ၎င်းမြေပေါ်တွင် ချင်းတွင်းမြစ်ရေတင် ရေသန့်စင်စက်ရုံတည်ဆောက်လုပ်ကိုင်ဆောင်ရွက်ရန် သဘောတူညီပါသည်။

၃ - ၂။ လုပ်ကိုင်ခွင့်ပြုသည် လုပ်ကိုင်ခွင့်ရသူထံသို့ ဤသဘောတူစာချုပ် အပိုဒ် ( ၁ -၁ ) ပါ မုံရွာမြို့ပေါ်ရှိ မြေဧရိယာ ( ၁.၄၈ ) ဧကကို လုပ်ငန်းစတင်သည့်နေ့မှစ၍ နှစ်ပေါင်း ( ၃၀ ) ငှားရမ်းအသုံးပြုရန် သတ်မှတ်သည်။

၃ - ၃။ လုပ်ကိုင်ခွင့်ရသူအနေဖြင့် စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ ရက်ပေါင်း ( ၃၀ ) အတွင်း လုပ်ငန်းစတင်ရမည်။

၄။ စာချုပ်သက်တမ်းတိုးခြင်း

၄ - ၁။ လုပ်ကိုင်ခွင့်ရသူသည် ဆက်လက်ငှားရမ်းခြင်းလုပ်ကိုင်ဆောင်ရွက်လိုပါက နောက်ထပ်တစ်ကြိမ်လျှင် ( ၁၀ ) နှစ်စီဖြင့် ( ၂ )ကြိမ် ဆက်လက် ငှားရမ်းသုံးစွဲခွင့်ပြုပါရန် တင်ပြဆောင်ရွက်ခွင့် ရှိသည်။

၄ - ၂။ လုပ်ကိုင်ခွင့်ရသူသည် သက်တမ်းပြည့်သည့်အခါ ဆက်လက်၍ ငှားရမ်းလုပ်ကိုင်ဆောင်ရွက်လိုပါက သက်တမ်းမစေ့မီ အနည်းဆုံး ( ၆ ) လ ကြိုတင်၍ လုပ်ကိုင်ခွင့်ပြုသူထံလျှောက်ထားရပါမည်။ လုပ်ကိုင်ခွင့်ပြုသူသည် ( မုံရွာမြို့နယ် စည်ပင်သာယာရေးကော်မတီ ) ကဆုံးဖြတ်သည့်အတိုင်း လုပ်ကိုင်ခွင့်ရသူက လိုက်နာဆောင်ရွက်ရန် ဖြစ်သည်။

၅။ မြေငှားရမ်းခပေးသွင်းခြင်း

၅ - ၁။ လုပ်ကိုင်ခွင့်ရသူသည် မြေဧရိယာ ( ၁.၄၈ )ဧက မြေ၊ အဆောက်အဦးနှင့် ရေပေးရေးဆိုင်ရာ ဆက်စပ်ပစ္စည်းများ အသုံးပြုခြင်းအတွက် နှစ်စဉ် မြေအဆောက်အဦးနှင့် ရေပေးရေးဆိုင်ရာ ဆက်စပ်ပစ္စည်းများ

၁ - ၃ ။ ငှားရမ်းသည့်မြေ

ငှားရမ်းသည့်မြေ၊ အဆောက်အဦးနှင့် ရေပေးရေးဆိုင်ရာဆက်စပ်ပစ္စည်းများဆိုသည်မှာ စစ်ကိုင်းတိုင်းဒေသကြီး၊ အပိုဒ် ( ၁ - ၁ ) တွင် ပါဝင်သော မြေအဆောက်အဦးနှင့်ရေပေးရေးဆိုင်ရာ ဆက်စပ်ပစ္စည်းများကို ဆိုလိုသည်။

၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၂ - ၁။ လုပ်ကိုင်ခွင့်ပြုသူသည် ဤစာချုပ်တွင်ဖော်ပြထားသော စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့ပေါ်ရှိ မြေဧရိယာ ( ၁.၄၈ ) ဧကရှိသော ချင်းတွင်းမြစ်ရေတင်စက်ရုံဝင်း၊ ကွင်းအမည် ( လေးကူး - ကျွဲကြီး ) ၏ မြေယာ စီမံခန့်ခွဲမှုရှိသော ကိစ္စရပ်များကို တရားဝင်စီမံခန့်ခွဲပိုင်ခွင့်ရှိသော အာဏာပိုင်အဖွဲ့အစည်းဖြစ်ပါသည်။

၂ - ၂။ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ မြေဧရိယာ ( ၁.၄၈ ) ဧကပေါ်တွင် နှစ်ရှည်ငှားရမ်းရန်နှင့် ချင်းတွင်းမြစ်ရေတင် ရေသန့်စင်စက်ရုံတည်ဆောက်ရန်အတွက် ငွေကြေးအင်အား၊ ပစ္စည်းအင်အား၊အတတ်ပညာအင်အားများရှိပြီး စာချုပ်ပါအတိုင်း ဆောင်ရွက်နိုင်စွမ်းရှိသူဖြစ်ပါသည်။

၃။ မြေငှားရမ်းခြင်းကာလသတ်မှတ်ခြင်း

၃ - ၁။ လုပ်ကိုင်ခွင့်ပြုသူသည် ဤသဘောတူစာချုပ် အပိုဒ် ( ၁ - ၁ ) ပါ မုံရွာမြို့ပေါ်ရှိ မြေဧရိယာ ( ၁.၄၈ ) ဧကမြေကို အငှားချထားခြင်းခံရသူထံသို့ နှစ်ရှည်ငှားရမ်း၍ ၎င်းမြေပေါ်တွင် ချင်းတွင်းမြစ်ရေတင် ရေသန့်စင်စက်ရုံတည်ဆောက်လုပ်ကိုင်ဆောင်ရွက်ရန် သဘောတူညီပါသည်။

၃ - ၂။ လုပ်ကိုင်ခွင့်ပြုသည် လုပ်ကိုင်ခွင့်ရသူထံသို့ ဤသဘောတူစာချုပ် အပိုဒ် ( ၁ -၁ ) ပါ မုံရွာမြို့ပေါ်ရှိ မြေဧရိယာ ( ၁.၄၈ ) ဧကကို လုပ်ငန်းစတင်သည့်နေ့မှစ၍ နှစ်ပေါင်း ( ၃၀ ) ငှားရမ်းအသုံးပြုရန် သတ်မှတ်သည်။

၃ - ၃။ လုပ်ကိုင်ခွင့်ရသူအနေဖြင့် စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ ရက်ပေါင်း (၃၀ ) အတွင်း လုပ်ငန်းစတင်ရမည်။

၄။ စာချုပ်သက်တမ်းတိုးခြင်း

၄ - ၁။ လုပ်ကိုင်ခွင့်ရသူသည် ဆက်လက်ငှားရမ်းခြင်းလုပ်ကိုင်ဆောင်ရွက်လိုပါက နောက်ထပ်တစ်ကြိမ်လျှင် ( ၁၀ ) နှစ်စီဖြင့် ( ၂ )ကြိမ် ဆက်လက် ငှားရမ်းသုံးစွဲခွင့်ပြုပါရန် တင်ပြဆောင်ရွက်ခွင့် ရှိသည်။

၄ - ၂။ လုပ်ကိုင်ခွင့်ရသူသည် သက်တမ်းပြည့်သည့်အခါ ဆက်လက်၍ ငှားရမ်းလုပ်ကိုင်ဆောင်ရွက်လိုပါက သက်တမ်းမစေ့မီ အနည်းဆုံး ( ၆ ) လ ကြိုတင်၍ လုပ်ကိုင်ခွင့်ပြုသူထံလျှောက်ထားရပါမည်။ လုပ်ကိုင်ခွင့်ပြုသူသည် ( မုံရွာမြို့နယ် စည်ပင်သာယာရေးကော်မတီ ) ကဆုံးဖြတ်သည့်အတိုင်း လုပ်ကိုင်ခွင့်ရသူက လိုက်နာဆောင်ရွက်ရန်ဖြစ်သည်။

၅။ မြေငှားရမ်းခပေးသွင်းခြင်း

၅ - ၁။ လုပ်ကိုင်ခွင့်ရသူသည် မြေဧရိယာ ( ၁.၄၈ )ဧက မြေ၊ အဆောက်အဦးနှင့် ရေပေးရေးဆိုင်ရာ ဆက်စပ်ပစ္စည်းများ အသုံးပြုခြင်းအတွက် နှစ်စဉ် မြေအဆောက်အဦးနှင့် ရေပေးရေးဆိုင်ရာ ဆက်စပ်ပစ္စည်းများ

ငှားရမ်းခကို အောက်ပါအတိုင်း ပေးသွင်းပါမည်။ မြေဧရိယာ ( ၁.၄၈ )ဧက ချင်းတွင်းမြစ်ရေတင်စက်ရုံဝင်း၊ကွင်းအမည် ( လေ့ကူး - ကျွေကြီး ) မြေအတွက် ပေးသွင်းရန်ငွေမှာ -

| ငှားရမ်းမည့် မြေ၊ အဆောက်အဦး | ပေးသွင်းရမည့် ငွေပမာဏ |
|---|---|
| မြေဧရိယာ ( ၁.၄၈ ) ဧက | ၃,၆၀၀,၀၀၀/- (ကျပ်သုံးဆယ့်ခြောက်သိန်းတိတိ ) |

၅ - ၂။ နှစ်စဉ်ကျသင့်သည့် မြေငှားရမ်းခများကိုယင်းဘဏ္ဍာရေးနှစ်အစ ဧပြီလ ( ၃၀ ) ရက်နေ့ နောက်ဆုံးထား၍မပျက်မကွက် ပေးသွင်းရမည်။ နှစ်စဉ်မြေငှားရမ်းခပေးသွင်းရာတွင် လုပ်ကိုင်ခွင့်ပြုသူမှညွှန်ကြားထားသည့် သတ်မှတ်ထားသောငွေစာရင်းခေါင်းစဉ်သို့ ပေးသွင်းရန်ဖြစ်ပါသည်။ ရေသန့်စင်စက်ရုံလုပ်ငန်းတည်ဆောက် သည့်ကာလအတွင်းမြေငှားရမ်းခကင်းလွတ်ခွင့်ပြုပါသည်။ နှစ်စဉ်ငှားရမ်းခအားခေတ်ကာလပေါက်ဈေးနှင့် လျော်ညီစွာလုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့ညှိနှိုင်း၍ပြောင်းလဲသတ်မှတ်ရမည်။ လုပ်ကိုင်ခွင့်ရသူအနေဖြင့် ရေပေးရေး လုပ်ငန်းများစတင်သည့် ပထမဆုံးနှစ်အတွက် မြေငှားရမ်းခကိုယင်းဘဏ္ဍာရေးနှစ်၏ (၁)နှစ်စာလုံး အကြေပေးသွင်းရမည်။ လုပ်ကိုင်ခွင့်ရသူအနေဖြင့် မြေငှားရမ်းခများကိုသတ်မှတ်ကာလအတွင်းပေးသွင်းခြင်းမရှိပါက နောက်ကျဒဏ်ကြေးအဖြစ် တစ်နှစ်ငှားရမ်းခတန်ဘိုး၏ (၃%) ပေးဆောင်ရမည်။တည်ဆောက်ရေးကာလသည် စာချုပ် စတင်သည့်နေ့မှ (၆) လအတွင်းလုပ်ငန်းများကို ပြီးပြတ်အောင် ဆောင်ရွက်ရမည်။ ငှားရမ်းခများတွက်ချက်ရာတွင် ဘဏ္ဍာရေးနှစ်အလိုက် တွက်ချက်ဆောင်ရွက်ရမည်။

၅ - ၃။ လုပ်ကိုင်ခွင့်ရရှိသူသည် ရေပေးရေးလုပ်ငန်းစီးပွားဖြစ် စတင်ဖြန့်ဖြူးရောင်းချသည့်နေ့ကို (၁.၁၂.၂၀၁၇) ရက်နေ့မှစ၍ ( ၃၀. ၁၁. ၂၀၄၆ ) ထိသတ်မှတ်သည်။ တည်ဆောက်ရေးကာလအား (၆) လ သတ်မှတ်ထားသော်လည်းသတ်မှတ်ရက်ထက်စော၍ ပြီးစီးပါက ပြီးစီးသည့်အချိန်မှစတင်၍ စီးပွားဖြစ်စတင်ဖြန့်ဖြူးရောင်းချသည့်နေ့အဖြစ် သတ်မှတ်ရမည်။

## ၆ ။ လုပ်ကိုင်ခွင့်ပြုသူ၏တာဝန်များ

၆ - ၁။ လုပ်ကိုင်ခွင့်ပြုသူအနေဖြင့် လုပ်ကိုင်ခွင့်ရရှိသူ၏ လုပ်ငန်းများကိုအရည်အသွေး စံချိန်စံညွှန်း နှင့် အညီစနစ်ကျနမှုရှိမရှိအခါအားလျော်စွာစစ်ဆေးနိုင်ခွင့်ရှိရမည်အပြင် လိုအပ်သည့်လမ်းညွှန်ချက်နှင့် ညွှန်ကြားချက်များကိုထုတ်ပြန်နိုင်သည်။ လုပ်ကိုင်ခွင့်ရသူအနေဖြင့် ဌာန၏လိုအပ်သဖြင့် ကွင်းဆင်းစစ်ဆေးမှုကို ပူးပေါင်းပါဝင်ရ မည့်အပြင် လိုအပ်၍ထုတ်ပြန်သည့် ညွှန်ကြားချက်နှင့် လမ်းညွှန်ချက်များကိုတိတိကျကျ လိုက်နာရမည်။

## ၇။ လုပ်ကိုင်ခွင့်ရသူ၏တာဝန်များ

၇ - ၁။ လုပ်ကိုင်ခွင့်ရသူသည်မြေငှားရမ်းခ နှင့် လျှပ်စစ်မီတာခများကို သတ်မှတ်နှုန်းထား အတိုင်းအချိန်မီမပျက်မကွက် ပေးသွင်းရပါမည်။ ထို့အတူစာချုပ်တွင် ထမ်းဆောင်ရမည့် တံဆိပ်ခေါင်းများ၊ စာချုပ်မှတ်ပုံတင်ကိစ္စများကိုတစ်ပါတည်းဆောင်ရွက်ရမည်။

၇ - ၂။ လုပ်ကိုင်ခွင့်ရသူသည် မြစ်ရေတင်ရေသန့်စင်စက်ရုံဝင်းအတွင်း အန္တရာယ်ကင်းရှင်းစေရန်၊ မီးသတ်ဦးစီးဌာန နှင့် မြို့နယ်လျှပ်စစ်ဦးစီးဌာနတို့၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရပါမည်။

၇ - ၃။ လုပ်ကိုင်ခွင့်ရသူသည် ရေသန့်စင်လုပ်ငန်းတွင် အသုံးပြုမည့် ဓာတုပစ္စည်းများအသုံးပြုရာတွင် ပတ်ဝန်းကျင်မထိခိုက်စေရန် နှင့် ဂိုထောင်များထားရှိ၍စနစ်တကျသိုလှောင်ရပါမည်။ဓာတုပစ္စည်းများအသုံးပြုခြင်းနှင့်

စပ်လျဉ်း၍ ၂၀၁၃ ခုနှစ် ဓာတုပစ္စည်းများနှင့် ဆက်စပ်ပစ္စည်းများတားဆီးကာကွယ်ရေးဥပဒေပါ ပြဋ္ဌာန်းချက်များ နှင့် အညီလိုက်နာဆောင်ရွက်ရပါမည်။

၇ - ၄။ လုပ်ကိုင်ခွင့်ရသူသည် ရေသန့်စင်စက်ရုံလုပ်ငန်းအတွက်အသုံးပြုမည့် လုပ်ကိုင်ခွင့် ပြုသူပိုင် ထရန်စဖော်မာပျက်စီးလောင်ကျွမ်းမှု ဖြစ်ပေါ်ပါက တာဝန်ယူဆောင်ရွက်ပေးရပါမည်။

၇ - ၅။ လုပ်ကိုင်ခွင့်ရသူသည် မြစ်ရေတင်ရေပေးခြင်းဆောင်ရွက်သည်ဖြစ်၍ရေအရင်းအမြစ်နှင့် မြစ်ချောင်း များ ထိန်းသိမ်းရေးဥပဒေနှင့်အညီဆောင်ရွက်ရပါမည်။

၇ - ၆။ မြေအဆောက်အဦးနှင့်ရေပေးရေးဆိုင်ရာဆက်စပ်ပစ္စည်းများငှားရမ်းခြင်း သက်တမ်းကာလသည် စာချုပ်သက်တမ်းကာလနှင့်အတူ ဖြစ်စေရမည်။

၇ - ၇။ စာချုပ်စတင်လက်မှတ်ရေးထိုးသည့်နေ့သည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ကျပြီး စာချုပ်ဝင်များနှစ်ဦးနှစ်ဖက် အတည်ပြုလက်မှတ်ရေးထိုးသည့်နေ့စ၍ စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့ ဖြစ် သည်။

၇ - ၈။ လုပ်ကိုင်ခွင့်ရရှိသူအနေဖြင့် လုပ်ငန်းအာမခံကြေး ( Performance Bank Guarantee ) အတွက် အာမခံကြေးကျပ်သိန်း (၁,၀၀၀) သို့မဟုတ် အဆိုပါကျပ်ငွေနှင့်ညီမျှသော ဘဏ်အာမခံစာရွက်အား စည်ပင်သာယာ ရေးကော်မတီ၊ ငွေစာရင်း၊ သက်ဆိုင်ရာခေါင်းစဉ်တွင် ပေးသွင်းရမည်။ စီမံကိန်းပြီးစီး၍ စီးပွားဖြစ်စတင်ထုတ်လုပ် ဖြန့်ဖြူးရောင်းချသည့် နေ့တွင် လုပ်ငန်းခွင့်ပြုသူမှ လုပ်ငန်းလုပ်ကိုင်သူထံသို့ တစ်လုံးတစ်ခဲတည်းပြန်လည်ထုတ်ပေးရမည်။

၇ - ၉။ တံဆိပ်ခေါင်းအက်ဥပဒေ(၉)အရအစိုးရတံဆိပ်ခေါင်းအခွန် ကင်းလွတ်ခွင့်(သို့) သက်သာခွင့်မရရှိ သေးလျှင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကိုလုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ ထမ်းဆောင်ရမည် ဖြစ်ပါသည်။

### ၈။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၈ - ၁။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာသဘာဝဘေးအရေျာက် ကြုံတွေ့နိုင်သည့် မီးဘေး၊ ရေဘေး၊ လေဘေး၊မြေငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သန့်တားမြစ်ချက်များတရား ဥပဒေစိုးမိုး ရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိဂရုစိုက်ပြီး ဆောင်ရွက်စေကာမူမလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် လုပ်ငန်းဆောင်ရွက်မှုကိုထိခိုက်ဆုံးရှုံးစေလျှင် လုပ်ငန်းအပ်နှံသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့် မရှိစေရ။

ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်လာပေါက်ပါကယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက် အတွင်းလုပ်ငန်းလက်ခံသူသည် လုပ်ငန်းအပ်နှံသူသို့ ချက်ချင်းစာဖြင့်ရေးသားအကြောင်းကြားရမည်။ မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး၊ လုပ်ငန်းဆောင်ရွက်မှုနှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက် ကာလ အပိုင်းအခြားအတွက်သက်သာခွင့်ပြုနိုင်သည်။

၈ - ၂။ ဖော်ပြပါ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ ဖြစ်ပွားရသည့်နှင့်စပ်လျဉ်း၍လုပ်ငန်းအပေါ် အကျိုးသက် ရောက်မှု တစ်စုံတစ်ရာဖြစ်ပေါ်လာပါကစာချုပ်ဝင်များအနေဖြင့် စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ထံသို့ အကြောင်း

ကြားရမည်။ နစ်ဖက်စာချုပ်ဝင်များသည် မလွန်ဆန်နိုင်သော ဖြစ်ရပ်သက်ရောက်ခြင်းမှ သက်သာခွင့်ရစေရန်အလို့ငှာအကျိုးအကြောင်းဆီလျော်စွာညှိနှိုင်းတိုင်ပင်ဆောင်ရွက်ရမည်။

၉။ အငြင်းပွားမှုဖြေရှင်းခြင်း

၉ - ၁။ လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့အကြားဤသဘောတူစာချုပ်နှင့်စပ်လျဉ်း၍အငြင်းပွားမှုတစ်စုံတစ်ရာဖြစ်ပေါ်လာပါကစာချုပ်ဝင် နှစ်ဦးနှစ်ဖက် ချစ်ခင်ငြိမ်းချမ်းသောနည်းဖြင့် ညှိနှိုင်းဖြေရှင်းရမည်။

၉ - ၂။ လုပ်ကိုင်ခွင့်ပြုသူ နှင့် လုပ်ကိုင်ခွင့်ရသူတို့သည် အထက်အပိုဒ် (၉-၁)ပါ ငြိမ်းချမ်းသောနည်း လမ်းဖြင့် ဖြေရှင်း၍မရပါကဥပဒေနှင့်အညီလုပ်ပိုင်ခွင့်ရှိသောတရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်။ သို့မဟုတ် အနညာတခုံရုံးနည်းဖြင့် ဖြေရှင်းရမည်။ ယင်းကဲ့သို့ ဖြေရှင်းရာတွင် ၂၀၁၆ ခုနှစ်၊ အနညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ ဖြစ်စေရမည်အပြင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များ အတိုင်းလုပ်ထုံး လုပ်နည်းများနှင့်အညီ ဖြေရှင်းဆောင်ရွက်ရမည်။

၉ - ၃။ ခုံရုံးတည်နေရာကိုလုပ်ငန်းတည်နေရာဒေသဖြစ်သော စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့ဟုနစ်ဦးသဘော တူသတ်မှတ်ပါသည်။ အမှုအတွက် ကုန်ကျစရိတ်များကိုအမှုရှုံးသူကကျခံရမည်။

၁၀။ စာချုပ်အကျိုးသက်ရောက်ခြင်း

ဤစာချုပ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်ကျပြီး စာချုပ်ဝင်များနစ်ဦးနစ်ဖက်အတည်ပြု လက်မှတ်ရေး ထိုးသည့်နေ့မှစ၍စတင်အကျိုးသက်ရောက်သည်။

၁၁။ စာချုပ်အားပြင်ဆင်ခြင်း

ဤသဘောတူစာချုပ်ကို ပြင်ဆင်လိုပါက နစ်ဦးနစ်ဖက် ညှိနှိုင်း၍စာဖြင့်ရေးသားလျက် ပြင်ဆင်နိုင်သည်။ အဆိုပါ ပြင်ဆင်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရယူဆောင်ရွက်ရမည်။

၁၂။ စာချုပ်ရပ်စဲခြင်း

၁၂ - ၁။ ဤသဘောတူစာချုပ်သည် အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ကြောင့်ဖြစ်စေ၊ တစ်ခုထက်ပိုသော အကြောင်းများကြောင့်ဖြစ်စေ ဖြစ်ပေါ်လာပါက စာချုပ်အား ရပ်စဲနိုင်သည် -

( က ) စာချုပ်ဝင်များ နစ်ဖက်အပြန်အလှန် သဘောတူညီချက်ဖြင့် ရပ်စဲခြင်း။

( ခ ) လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကိုဆက်လက် အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် မစွမ်းဆောင်နိုင်တော့ခြင်း။

( ဂ ) ဤတည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း ( B .O.T ) စာချုပ်သည် လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့၏ မြေငှားရမ်းခြင်းစာချုပ်၏ အစိတ်အပိုင်းဖြစ်သည့်အားလျော်စွာအဆိုပါ မြေငှားရမ်းခြင်း စာချုပ်မှာဆက်လက်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ခြင်းမရှိတော့သည့်အတွက် ဤစာချုပ်မှာလည်းရပ်စဲသွားခြင်း။

၁၂ - ၂။ ဤစာချုပ်ရပ်စဲပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အကြောင်းအရာ ပြည့်စုံစွာဖော်ပြလျက် အသိပေးတင်ပြရမည်။

၁၃။ မြေ၊ အဆောက်အဦးနှင့် ရေပေးရေးဆိုင်ရာဆက်စပ်ပစ္စည်းများ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၃ - ၁။ လုပ်ကိုင်ခွင့်ပြုသူမှာငှားရမ်းမြေဖြစ်သော ချင်းတွင်းမြစ်ရေတင်စက်ရုံဝင်းအတွင်းရှိ အနည်ထိုင်ကန်၊ အမြန်ရေစစ်ကန်၊ ရေကြည်စုကန်၊ လျှပ်စစ်ထရန်စဖော်မာ ၁၀၀ ကေဗွီအေ၊ ဂန်ထမ်းအိမ်ယာ၊ ရေပိုက်လိုင်း၊ ခြံစည်းရိုးများ အသုံးပြုခွင့်ပေးပြီးလုပ်ကိုင်ခွင့်ရသူမှ ပြန်လည်အပ်နှံပါကမူလအခြေအနေအတိုင်း ပြန်လည်အပ်နှံရမည်။ - ပူးတွဲပါအတိုင်း

၁၄။အသိပေးခြင်း

၁၄ - ၁။ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် အောက်ပါဆက်သွယ်ရေးလမ်းကြောင်းအတိုင်းဆက်သွယ်အကြောင်းကြား ရန် ဖြစ်ပါသည် -

( က ) အကြောင်းကြားသည့် စနစ်များမှာစာဖြင့်လည်းကောင်း၊ တယ်လီဖုန်း၊ ဖက်(စ်)၊ အီးမေး(လ်)တို့ဖြင့်လည်းကောင်း၊ လူကိုယ်တိုင်တွေ့ဆုံခြင်းဖြင့်လည်းကောင်း၊ အထူးဆက်သားဖြင့် ဆက်သွယ်၍ လည်းကောင်း အကြောင်းကြားဆက်သွယ်ရန် ဖြစ်ပါသည်။

( ခ ) ဆက်သွယ်ရန်လိပ်စာ

<u>လုပ်ကိုင်ခွင့်ပြုသူကိုယ်စား</u>

| | | |
|---|---|---|
| အမည် | - | ဦးထွန်းထွန်း |
| လိပ်စာ | - | အမှုဆောင်အရာရှိ၊မြို့နယ်စည်ပင်သာယာရေးကော်မတီ |
| ဖုန်းနံပတ် | - | ၀၉ - ၄၅၅၀၈၆၄၉၆ |

<u>လုပ်ကိုင်ခွင့်ရသူကိုယ်စား</u>

| | | |
|---|---|---|
| အမည် | - | ဦးအေးထွန်းအောင် |
| လိပ်စာ | - | အမှတ် (၂၅၈-၂၆၂)၊ ၁၁ လွှာ၊ Classic Strand Condo၊ ကမ်းနားလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| ဖုန်းနံပတ် | - | ၀၉ - ၄၅၂၁၀၅၀၅၀ |
| ဖက်စ်နံပတ် | - | ၀၁ - ၂၄၉၈၂၄ |
| E-mail | - | Oscar@chincorp.com.mm |

၁၅။ အထွေထွေ

၁၅ - ၁။ ဤစာချုပ် နှင့် ပူးတွဲထားသည့် နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

၁၅ - ၂။ အထက်ပါ စည်းကမ်းချက်များ၊ အချက်အလက်များကိုသဘောတူညီကြပြီးဖြစ်သည့်အလျောက် ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ(          )ရက်နေ့တွင် အောက်ပါအသိသက်သေများရှေ့မှောက်၌သဘောတူစာချုပ်ချုပ်ဆို၍လက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| လုပ်ကိုင်ခွင့်ပြုသူ ( ကိုယ်စား ) | လုပ်ကိုင်ခွင့်ရသူ ( ကိုယ်စား ) |
| ---------------------------------------- | ---------------------------------------- |
| ဦးထွန်းထွန်း | ဦးအေးထွန်းအောင် |
| အမှုဆောင်အရာရှိ | မန်နေဂျင်းဒါရိုက်တာ |
| မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ | Aqua PuraCo.,Ltd |

" အသိသက်သေများ "

| | |
|---|---|
| ---------------------------------------- | ---------------------------------------- |
| ဦးလှမျိုး | ဦးကျော်မျိုးဝင်း၊၅/မရန(နိုင်) ၀၁၀၄၅၆ |
| အင်ဂျင်နီယာမှူး | ဥက္ကဋ္ဌ |
| မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ | မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စစ်ကိုင်းတိုင်းဒေသကြီးဥပဒေချုပ်ရုံး
မုံရွာမြို့

စာအမှတ်၊ ၅ ( ၃ ) ၁ / ၁ ( ၂၃၃၁ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ ၂၅ရက်

သို့
တိုင်းဒေသကြီးအစိုးရအဖွဲ့
စစ်ကိုင်းတိုင်းဒေသကြီး
မုံရွာမြို့

အကြောင်းအရာ။ စိစစ်တင်ပြရန်ကိစ္စ

ရည် ညွှန်း ချက်။
(၁) ပြည်ထောင်စုရှေ့နေချုပ်ရုံး ၊ ဥပဒေအကြံဉာဏ်ပေးရေးဦးစီးဌာန၏ ၅-၁၀-၂၀၁၆ ရက်စွဲပါစာအမှတ် ၊ ၂ (၅) ၁၄-၁၅၈/နပတ (၉၀၆)
(၂) စစ်ကိုင်းတိုင်းဒေသကြီးဥပဒေချုပ်ရုံး၏ ၂၉-၈-၂၀၁၆ ရက်စွဲပါစာအမှတ် ၊ ၅ (၃) ၁/၁ (၁၈၁၆)
(၃) စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၅-၈-၂၀၁၆ ရက်စွဲပါစာအမှတ် ၊ ၄/၇-၅ (၃) (၇၈၁) စည်ပင် (ရေ)
(၄) Aqua Pura Co.Ltd ၏ ၂၄-၇-၂၀၁၆ ရက်စွဲပါတင်ပြစာ

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မုံရွာမြို့နယ် ၊ စည်ပင်သာယာရေးကော်မတီ၏ အမှတ် (၆၆) ၊ ကွင်းအမှတ် (၆၇၉) ၊ ဦးပိုင်အမှတ် (၆၅ ၊ ၆၆ ၊ ၇၄) ၊ လှေကူးကွေ့ကြီးကွင်း ၊ ကမ်းနားလမ်း၊ ရုံးကြီးရပ်ကွက် ၊ ဧရိယာ (၁. ၄၈) ဧက မြေနေရာတွင် ချင်းတွင်းမြစ်ရေတင်လုပ်ငန်းအား ရေသန့်စင်စက်ရုံ တည်ဆောက်ပြီး ရေသန့်ဖြန့်ဖြူးခြင်းလုပ်ငန်းလုပ်ကိုင်ရန် မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co., Ltd. တို့ ချုပ်ဆိုသည့်မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း) နှင့် BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်စာချုပ် (မူကြမ်း) တို့အား Aqua Pura Co.,Ltd. က တင်ပြလာခြင်း အပေါ် စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့က အဆိုပါစာချုပ်(မူကြမ်း) များအား စိစစ်တင်ပြပါရန် စစ်ကိုင်းတိုင်းဒေသကြီးဥပဒေချုပ်ရုံးသို့ ရည်ညွှန်းချက်(၃)ပါစာဖြင့် အကြောင်းကြားလာသည့်ကိစ္စ ဖြစ်ပါသည်။

၂။ ရည်ညွှန်းချက် (၃) ပါစာဖြင့် တင်ပြလာသော မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ် (မူကြမ်း) များနှင့် BOT သဘောတူစာချုပ်(မူကြမ်း)များကို စစ်ကိုင်းတိုင်းဒေသကြီးဥပဒေချုပ်ရုံးက ပြည်ထောင်စု ရှေ့နေချုပ်ရုံး ၊ ဥပဒေအကြံဉာဏ်ပေးရေးဦးစီးဌာနသို့ ရည်ညွှန်းချက် (၂) ပါစာဖြင့် လမ်းညွှန်မှုခံယူခဲ့ပါသည်။

၃။ ပြည်ထောင်စုရှေ့နေချုပ်ရုံး ၊ ဥပဒေအကြံဉာဏ်ပေးရေးဦးစီးဌာနက မုံရွာမြို့နယ်စည်ပင် သာယာရေး ကော်မတီနှင့် Aqua Pura Co.,Ltd. တို့အကြား ချုပ်ဆိုသော မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူကတိစာချုပ် (မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှလေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ် အကြံပြုခဲ့ပါသည် -

(က) မြေငှားစာချုပ် (မူကြမ်း) ၏ စာချုပ်ဝင်စာပိုဒ်အား ပုံစံကျနမှုရှိစေရန်အတွက် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါကြောင်း ၊

(ခ) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၃ မြေငှားရမ်းခြင်းကာလသတ်မှတ်ခြင်း ၊ အပိုဒ်ခွဲ ၃-၂ ၌ လုပ်ငန်းစတင်သည့်နေ့မှစ၍ နှစ်ပေါင်း ၅၀ ငှားရမ်းအသုံးပြုရန် သတ်မှတ်သည်ဟု ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့သည် လုပ်ငန်းစတင်သည့်နေ့ဖြစ်သည် သို့မဟုတ် စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှ စ၍ ရက်ပေါင်းမည်မျှတွင် လုပ်ငန်းစတင်မည်ဖြစ်ကြောင်း ဖော်ပြမထား၍ ဖော်ပြရန် လိုအပ်ပါသည်။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၄ တွင် နိုင်ငံတော်ထံမှ မြေငှားရမ်းလုပ်ကိုင်ခွင့်ရရှိသော ရင်းနှီးမြှုပ်နှံသူအား မြေအသုံးပြုခွင့်ကာလကို စီးပွားရေးလုပ်ငန်း ၊ စက်မှုလုပ်ငန်း သို့မဟုတ် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းအမျိုးအစား နှင့် ရင်းနှီးမြှုပ်နှံမှုပမာဏအပေါ် မူတည်၍ ကနဦးနှစ် (၅၀) အထိ ပြဋ္ဌာန်းထားသဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ သတ်မှတ်ဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါကြောင်း ၊

(ဂ) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၃(၂) ၌ မြေငှားရမ်းခြင်းကာလပါရှိသော်လည်း မြေငှား ရမ်းခြင်းကာလသက်တမ်းတိုးမြှင့်ခြင်းမပါရှိကြောင်း တွေ့ရှိရပါသည်။ မြေငှားရမ်းခြင်း ကာလ သက်တမ်းတိုးမြှင့်ခြင်းသည် စာချုပ်သက်တမ်းတိုးမြှင့်ခြင်းနှင့် ကိုက်ညီမှုရှိရန် လိုအပ်ပါသည်။ ဌာနမှပြန်လည်စိစစ်သင့်ပါကြောင်း ၊

(ဃ) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၅-၂ ၌ နှစ်စဉ်ကျသင့်သည့် မြေငှားရမ်းခများကို ယင်း ဘဏ္ဍာရေးနှစ်၏ မတ်လ (၃၁) ရက်နေ့ နောက်ဆုံးထား၍ မပျက်မကွက်ပေးသွင်းရမည် ဟု ဖော်ပြထားပါသည်။ မြေငှားရမ်းခများကို ဘဏ္ဍာရေးနှစ်ကုန်မှ ပေးသွင်းရမည့်သဘော ဖြစ်နေကြောင်း တွေ့ရှိရပါသည်။ မြေငှားစာချုပ်တွင် မြေငှားရမ်းခများကို ကြိုတင်ပေးသွင်း ရန် သတ်မှတ်လေ့ရှိသဖြင့် ယင်းဖော်ပြချက်အား ဌာနမှပြန်လည်စိစစ်သင့်ပါကြောင်း ၊

(င) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၅-၂ ၌ နှစ်စဉ်ကျသင့်သည့် မြေငှားရမ်းခများကို ယင်း ဘဏ္ဍာရေးနှစ်၏ မတ်လ (၃၁) ရက်နေ့ နောက်ဆုံးထား၍ မပျက်မကွက်ပေးသွင်းရမည် ဟု ဖော်ပြထားရာ ပထမဦးဆုံးနှစ်အတွက် မြေငှားရမ်းကာလကို မည်ကဲ့သို့သတ်မှတ်မည် ဖြစ်ကြောင်း ဖော်ပြထားခြင်းမရှိသဖြင့် သတ်မှတ်ဖော်ပြသင့်ပါသည်။ ထို့ပြင် မြေငှားရမ်းခ အား ဘဏ္ဍာရေးနှစ်၏ မတ်လ (၃၁) ရက်နေ့ နောက်ဆုံးထားပေးသွင်းရမည်ဟု ဖော်ပြ ထားသော်လည်း မည်သည့်နေ့မှစ၍ မတ်လ (၃၁) ရက်နေ့ နောက်ဆုံးပေးသွင်းရမည် ဖြစ်ကြောင်း ဖော်ပြမထား၍ ဖော်ပြသင့်ပါကြောင်း ၊

(စ) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၅-၂ တွင် "နှစ်စဉ်ကျသင့်သည့် မြေငှားရမ်းခများကို ယင်းဘဏ္ဍာရေးနှစ်၏ မတ်လ (၃၁) ရက်နေ့ နောက်ဆုံးထား၍ မပျက်မကွက်ပေးသွင်း

ရမည်။ နှစ်စဉ် မြေငှားရမ်းခပေးသွင်းရာတွင် ခွင့်ပြုသူက ညွှန်ကြားထားသည့် သတ်မှတ်ထားသော ငွေစာရင်းခေါင်းစဉ်သို့ ပေးသွင်းရန်ဖြစ်ပါသည်" ဟု ဖော်ပြထားပါသည်။ မြေငှားရမ်းခများကို သတ်မှတ်ကာလအတွင်း ပေးသွင်းခြင်းမရှိပါက လုပ်ကိုင်ခွင့်ပြုသူ အနေဖြင့် နောက်ကျဒဏ်ကြေးမည်သို့ ပေးဆောင်ရမည် သို့မဟုတ် မည်ကဲ့သို့ အရေးယူဆောင်ရွက်မည်ဆိုသော စည်းကမ်းချက်မပါရှိသဖြင့် ထည့်သွင်းဖော်ပြရန် လိုအပ်ပါကြောင်း၊

(ဆ) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၅-၂ တွင် "ရေသန့်စင်စက်ရုံလုပ်ငန်း တည်ဆောက်ကာလအတွင်း မြေငှားရမ်းခကင်းလွတ်ခွင့်ပြုပါသည်" ဟု ဖော်ပြထားပါသည်။ တည်ဆောက်ရေးကာလသည် မည်သည့်နေ့မှစ၍ မည်သည့်နေ့အထိ အချိန်ကာလမည်မျှဖြစ်ကြောင်း ဖော်ပြမထား၍ တိကျစွာထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။ တည်ဆောက်ရေးကာလမပြီးစီးလျှင်သော်လည်းကောင်း ၊ တည်ဆောက်ရေးလုပ်ငန်းမစတင်နိုင်လျှင်သော်လည်းကောင်း မြေငှားရမ်းခမရရှိနိုင်သည်ကို ဌာနမှသတိပြုသင့်ပါကြောင်း ၊

(ဇ) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၅-၁ ၌ × × × × × နှစ်စဉ်မြေငှားရမ်းခ × × × × × ဟု ဖော်ပြထားပြီး အပိုဒ် ၅-၂ ၌ × × × × × ယင်းဘဏ္ဍာရေးနှစ်၏ မတ်လ (၃၁)ရက်နေ့ နောက်ဆုံးထား၍ မပျက်မကွက်ပေးသွင်းရမည်ဟု ဖော်ပြထားရာ နှစ်စဉ်ငှားရမ်းခ တွက်ချက်ခြင်းသည် ဘဏ္ဍာရေးနှစ်အလိုက် တွက်ချက်ခြင်းဖြစ်သည် သို့မဟုတ် ဘဏ္ဍာရေးနှစ် သို့မဟုတ် ပြက္ခဒိန်နှစ်အနက် မည်သည့်နှစ်အပေါ် မူတည်၍ တွက်ချက်ခြင်းဖြစ်ကြောင်း ရှင်းလင်းမှုမရှိသဖြင့် ရှင်းလင်းစွာဖော်ပြရန် လိုအပ်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါကြောင်း ၊

(ဈ) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၇-၃ ၌ လုပ်ကိုင်ခွင့်ရသူသည် ရေသန့်စင်လုပ်ငန်းတွင် အသုံးပြုမည့် ဓာတုပစ္စည်းများအသုံးပြုရာတွင် ပတ်ဝန်းကျင်မထိခိုက်စေရန်နှင့် ဂိုဒေါင်များထားရှိ၍ စနစ်တကျသိုလှောင်ရပါမည်ဟု ဖော်ပြထားရာ ဓာတုပစ္စည်းများ အသုံးပြုခြင်းနှင့်စပ်လျဉ်း၍ ၂၀၁၃ ခုနှစ် ၊ ဓာတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်သင့်ပါကြောင်း ၊

(ည) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၈ မလွန်ဆန်နိုင်သောဖြစ်ရပ်များနှင့်စပ်လျဉ်း၍ အလားတူစာချုပ်တွင် အသုံးပြုလျက်ရှိသော စာပိုဒ်အား Slip ကပ်ပေးလိုက်ပါကြောင်း ၊

(ဋ) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၁၁-၁(င) ၌ ဤ BOT စာချုပ်သည် လုပ်ငန်းခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့၏ မြေငှားရမ်းခြင်းစာချုပ်၏ အစိတ်အပိုင်းဖြစ်သည့်အားလျော်စွာ အဆိုပါမြေငှားရမ်းခြင်းစာချုပ်မှာ ဆက်လက်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ခြင်းမရှိတော့သည့်အတွက် ဤစာချုပ်မှာလည်း ရပ်စဲသွားခြင်းဟု ဖော်ပြထားကြောင်း

တွေ့ရှိရပါသည်။ ယခုစာချုပ်သည် မြေငှားရမ်းခြင်းစာချုပ်ဖြစ်သောကြောင့် အဆိုပါ ဖော်ပြချက်အား ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ ထို့ပြင် BOT စာချုပ်နှင့် မြေငှားစာချုပ် တို့အား ချိတ်ဆက်ဖော်ပြထားသဖြင့် ဌာနအနေဖြင့် သတိပြုသင့်ပါကြောင်း၊

(ဌ) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၁၂-၁ တွင် "လုပ်ကိုင်ခွင့်ပြုသူမှာ ငှားရမ်းမြေဖြစ်သော ချင်းတွင်းမြစ်ရေတင်စက်ရုံဝင်းအတွင်းရှိ အနည်ထိုင်ကန်၊ အမြန်ရေစစ်ကန်၊ ရေကြည် ကန်၊ လျှပ်စစ်ထရန်စဖော်မာ 100 KVA၊ ဝန်ထမ်းအိမ်ရာ၊ ရေပိုက်လိုင်း၊ ခြံစည်းရိုး များ အသုံးပြုခွင့်ပေးပြီး လုပ်ပိုင်ခွင့်ရသူမှ ပြန်လည်အပ်နှံပါက မူလအခြေအနေအတိုင်း ပြန်လည်အပ်နှံရမည်" ဟု ဖော်ပြထားပါသည်။ ယင်းဖော်ပြချက်အရ မြေအပြင် အဆောက်အဦနှင့်ပစ္စည်းကိုပါ ငှားရမ်းခြင်းဖြစ်ကြောင်း တွေ့ရှိရသဖြင့် စာချုပ် (မူကြမ်း) အား မြေနှင့်အဆောက်အဦများ ငှားရမ်းခြင်းဟု ဖော်ပြသင့်ပြီး အပိုဒ် ၁-၃ တွင် ငှားရမ်း သည့်မြေ၌ မြေနှင့်အဆောက်အဦများ ပါဝင်ကြောင်းကို ဖော်ပြရန်လိုအပ်ပါကြောင်း၊

(ဍ) မြေငှားစာချုပ် (မူကြမ်း) အပိုဒ် ၁၂-၁ တွင် "လုပ်ကိုင်ခွင့်ပြုသူမှာ ငှားရမ်းမြေဖြစ်သော ချင်းတွင်းမြစ်ရေတင်စက်ရုံဝင်းအတွင်းရှိ အနည်ထိုင်ကန်၊ အမြန်ရေစစ်ကန်၊ ရေကြည် ကန်၊ လျှပ်စစ်ထရန်စဖော်မာ ၁၀၀ ကေဗွီအေ၊ ဝန်ထမ်းအိမ်ရာ၊ ရေပိုက်လိုင်း၊ ခြံစည်းရိုးများ အသုံးပြုခွင့်ပေးပြီး လုပ်ကိုင်ခွင့်ရသူမှ ပြန်လည်အပ်နှံပါက မူလအခြေအနေ အတိုင်း ပြန်လည်အပ်နှံရမည်" ဟု ဖော်ပြထားရာ ထိုသို့အသုံးပြုခွင့်ပေးထားသည့် ပစ္စည်း အမျိုးအစား၊ အရေအတွက်တို့နှင့်စပ်လျဉ်း၍ နောင်တွင် အငြင်းပွားမှုမဖြစ်စေရေး အတွက် စာချုပ်တွင် နောက်ဆက်တွဲအဖြစ်လည်း ပူးတွဲဖော်ပြသင့်ပါကြောင်း၊

(ပ) မြေငှားစာချုပ် (မူကြမ်း) သည် စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့ ချင်းတွင်းမြစ်ရေကို သန့်စင်၍ ရေဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ရန် ချုပ်ဆိုမည့်စာချုပ်ဖြစ်ကြောင်း တွေ့ရှိ ရသဖြင့် ရေအရင်းအမြစ်နှင့်မြစ်ချောင်းများထိန်းသိမ်းရေးဥပဒေနှင့်အညီ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(ဏ) မြေငှားစာချုပ် (မူကြမ်း) တွင် မြေငှားရမ်းမည့်သက်တမ်းကာလပါရှိသော်လည်း စာချုပ် သက်တမ်းကာလမပါရှိသဖြင့် ဖော်ပြရန်ဖြစ်ပါသည်။ မြေငှားရမ်းခြင်းသက်တမ်းကာလ သည် စာချုပ်သက်တမ်းကာလအတွင်း ကျရောက်ရန်လိုအပ်သကဲ့သို့ စာချုပ်သက်တမ်း နှင့် စာချုပ်သက်တမ်းတိုးမြှင့်ခြင်းတို့သည် BOT စာချုပ်၌ ဖော်ပြချက်များနှင့် ကိုက်ညီရန် လိုအပ်ပါသည်။ ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါကြောင်း၊

(တ) မြေငှားစာချုပ် (မူကြမ်း) တွင် အရေးကြီးသော ဥပဒေရေးရာစည်းကမ်းချက်တစ်ခုဖြစ် သည့် စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့ မပါရှိသဖြင့် ဖော်ပြရန်လိုအပ်ပါကြောင်း၊

(ထ) မြေငှားစာချုပ် (မူကြမ်း) ၌ ဥပဒေရေးရာစည်းကမ်းချက်တစ်ခုဖြစ်သည့်စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းခြင်းမပါရှိသဖြင့်လည်းကောင်း၊ မြေငှားစာချုပ်များတွင် ဖော်ပြလေ့

ရှိသော မြေနှင့်အဆောက်အဦသို့ ပြန်လည်ဝင်ရောက်ခြင်း ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းခြင်း ၊ သယံဇာတတွေ့ရှိခြင်း စသည့်စည်းကမ်းချက်များ မပါရှိသဖြင့်လည်း ကောင်း ၊ အလားတူစာချုပ်များတွင် အသုံးပြုလေ့ရှိသောစာပိုဒ်များကို Slip ကပ်ပေး လိုက်ပါကြောင်း ၊

(ဒ) မြေငှားစာချုပ် (မူကြမ်း) တွင် လုပ်ငန်းခွင့်ပြုသူဌာနအနေဖြင့် မြေအသုံးချမှု အာမခံကြေး ငွေ ရယူထားခြင်းမရှိသဖြင့် ရယူရန်သင့် မသင့် စဉ်းစားသင့်ပါကြောင်း ၊

(ဓ) မြေငှားစာချုပ် (မူကြမ်း) တွင် ကွက်လပ်များပါရှိရာ စာချုပ်ချုပ်ဆိုချိန်တွင် ယင်းကွက်လပ် များအား ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါကြောင်း ၊

(န) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါကြောင်း ။

၄။ ပြည်ထောင်စုရှေ့နေချုပ်ရုံး ၊ ဥပဒေအကြံဉာဏ်ပေးရေးဦးစီးဌာနက မုံရွာမြို့နယ်စည်ပင် သာယာရေး ကော်မတီနှင့် Aqua Pura Co.,Ltd. တို့အကြား ချုပ်ဆိုသောBOT သဘောတူစာချုပ်(မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုပါသည် -

(က) BOT စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်စာပိုဒ်အား ပုံစံကျနမှုရှိစေရန်အတွက် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါကြောင်း ၊

(ခ) BOT စာချုပ်(မူကြမ်း)တွင် စာချုပ်ချုပ်ဆိုခြင်း၏ ရည်ရွယ်ချက်အပိုဒ် ဖော်ပြထားခြင်း မရှိကြောင်းတွေ့ရှိရသဖြင့် ဌာန၏လိုအပ်ချက်နှင့်အညီ ဖော်ပြသင့်ပါကြောင်း ၊

(ဂ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၁(ဂ) တွင် တစ်ဆင့်ခံလုပ်ငန်းလုပ်ကိုင်ခွင့်ရသူဆိုသည်မှာ ဤစာချုပ်အပိုဒ် ၈(ဒ) ××××× ဟု ညွှန်းဆိုထားရာ စာချုပ်(မူကြမ်း)အပိုဒ် ၈ တွင် အပိုဒ်ခွဲ ၈(ဒ) မပါရှိသဖြင့် ရည်ညွှန်းချက် မှန်ကန်မှုရှိစေရန် ဌာနမှ ပြန်လည်စိစစ်သင့်ပါကြောင်း၊

(ဃ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၃ တွင် ဆောင်ရွက်မည့်လုပ်ငန်းအဆင့်ဆင့်ကို ဖော်ပြထား သည်ကိုတွေ့ရှိရပါသည်။ သို့သော် အဆိုပါ ဆောင်ရွက်မည့်လုပ်ငန်းများသည် မည်သည့် နေရာမှစတင်၍ မည်သည့်အချိန်ကာလအတွင်း ဆောင်ရွက်မည်ဆိုသည့်အချိန်ကာလ များ သတ်မှတ်ဖော်ပြထားခြင်းမရှိသဖြင့် အချိန်ကာလသတ်မှတ်ချက်ဇယားဖော်ပြသင့် ပါကြောင်း ၊

(င) BOT စာချုပ်(မူကြမ်း) အပိုဒ် ၄ တွင် ဖော်ပြထားသောအစိုးရသည် ပြည်ထောင်စုအစိုးရ သို့မဟုတ် တိုင်းဒေသကြီး/ပြည်နယ်အစိုးရအနက် မည်သည့်အစိုးရကို ရည်ညွှန်းကြောင်း ရှင်းလင်းဖော်ပြသင့်ပါကြောင်း ၊

(စ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၅ ပါ လုပ်ငန်းလုပ်ဆောင်မည့် တည်နေရာမြေပုံမှာ သက်ဆိုင်ရာဌာနက ထုတ်ပေးထားသော မြေပုံဖြစ်ရန်လိုအပ်ပါကြောင်း ၊

(ဆ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၅ တွင် " xxxxx လုပ်ငန်းလုပ်ကိုင်သူသည် တည်ဆောက်ရေး ကာလအတွင်းတွင်မူ ကင်းလွတ်ခွင့်ရှိရမည်။ စီးပွားဖြစ်စတင်ဖြန့်ဖြူးရောင်းချသည့်နေ့မှစ၍ လုပ်ငန်းခွင့်ပြုသူထံ BOT သက်တမ်းကုန်ဆုံးသည့်နေ့အထိ နှစ်စဉ်မပျက်မကွက်ပေးသွင်း ရမည်ဟု ဖော်ပြထားရာ အချိန်ကာလအား တိကျစွာဖော်ပြထားခြင်းမရှိသည်ကို တွေ့ရှိ ရပါသည်။ သို့ပါ၍ တည်ဆောက်ရေးကာလကို မည်သည့်အချိန်နေ့ရက်က စတင်မည် ဖြစ်ကြောင်းနှင့် စာချုပ်လက်မှတ်ရေးထိုးပြီးနောက် အချိန်ကာလမည်မျှအတွင်း စီးပွားရေး လုပ်ငန်းစတင်နိုင်မည်ကို တိကျစွာ သတ်မှတ်ဖော်ပြသင့်ပါကြောင်း ၊

(ဇ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၆ တွင် အခွန်ငွေအားလုံးပေးဆောင်ပြီး ရရှိလာသော အသားတင်အကျိုးအမြတ် Net Profit ၏ ၂၀ % အားလုပ်ငန်းခွင့်ပြုလုပ်သူအား ခွဲဝေပေးရမည်ဟု ဖောပြထားပါသည်။ ဌာနအနေဖြင့် Net Profit ရရှိမှုကို တစ်လသာ ရရှိသည့် Net Profit သို့မဟုတ် ဘဏ္ဍာရေးနှစ် သို့မဟုတ် ပြက္ခဒိန်နှစ်အတွင်းရရှိသည့် Net Profit ၏ ၂၀ % အား တွက်ချက်ခြင်းဟုတ် မဟုတ် ရှင်းလင်းစွာ ဖော်ပြရန် လိုအပ် ပါသည်။ ထို့ပြင် ဌာနအနေဖြင့် အဆိုပါလုပ်ငန်း၏ Net Profit မည်မျှရရှိသည်ကို သိရှိရန်လိုအပ်ပါကြောင်း ၊

(ဈ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၄ နှင့် အပိုဒ် ၈ (က) ၊ (ခ) တို့ပါ ဖော်ပြချက်များသည် သဘောသဘာဝချင်းတူညီနေသဖြင့် လုပ်ငန်းခွင့်ပြုသူ၏ တာဝန်များ စာပိုဒ်တွင် တစ်ပေါင်းတည်းဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါကြောင်း ၊

(ည) BOT စာချုပ်(မူကြမ်း) အပိုဒ် ၈ လုပ်ငန်းခွင့်ပြုသူ၏ တာဝန်ကို ဌာနအနေဖြင့် ဆောင်ရွက် ပေးနိုင်ခြင်းရှိ မရှိ စိစစ်သင့်ပါသည်။ အခြားဝန်ကြီးဌာနများနှင့် ဆက်စပ်ဆောင်ရွက်ပေး ရမည့်ကိစ္စပါရှိသဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ဆက်သွယ်ဆောင်ရွက်သင့်ပါကြောင်း၊

(ဋ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၈(ဆ) တွင် xxxxx ပြည်တွင်းပြည်ပချေးငွေချေးယူသုံးစွဲခြင်း ကိစ္စကို xxxxx ကူညီဆောင်ရွက်ပေးရမည်ဟု ဖော်ပြထားပါသည်။ သို့သော် အာမခံခြင်း နှင့် ကိုယ်စားပြုခြင်း အပိုဒ် ၂ တွင် xxxxx လုပ်ငန်းလုပ်ကိုင်သူသည် ခိုင်မာသော ဘဏ္ဍာရေး ရပ်တည်မှုရှိသူဖြစ်ကြောင်း အာမခံပါသည်ဟု ဖော်ပြထားရာ စည်းကမ်း ချက်ချင်း ကိုက်ညီမှုမရှိကြောင်း တွေ့ရှိရပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါကြောင်း၊

(ဌ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၈(ဈ) တွင်လုပ်ငန်းလုပ်ကိုင်သူသည် အထူးကိစ္စရပ်များ ကြောင့် xxxxx တောင်းဆိုမှုပြုနိုင်သည်ဟု ဖော်ပြထားရာ နောင်အငြင်းပွားမှုမဖြစ်ပေါ် စေရေးအတွက် အထူးကိစ္စရပ်မှာ မည်သည့်ကိစ္စရပ်ဖြစ်ကြောင်း ရှင်းလင်းစွာ ဖော်ပြရန် လိုအပ်ပါကြောင်း ၊

(ဍ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၉(ဍ) တွင် ဖော်ပြထားသော လုပ်ငန်းလုပ်ကိုင်သူ၏ မြစ်ရေတင်စက်ရုံစီမံကိန်း၏ လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလွှဲပြောင်းလုပ်ကိုင်ခွင့်မပြုရ

လုပ်ငန်းတစ်စိတ်တစ်ဒေသကိုမှ တစ်ဆင့်ခံလွှဲပြောင်းလုပ်ကိုင်ခွင့်မပြုရ၊ လုပ်ငန်းတစ်စိတ်တစ်ဒေသကိုမှ တစ်ဆင့်ခံ လွှဲပြောင်းလုပ်ကိုင်ခွင့်ပြုနိုင်သည်။ ယင်းသို့ ××××× တာဝန်ယူရမည်ဟု ဖော်ပြချက်နှင့်စပ်လျဉ်း၍ ဖော်ပြရန်သင့် မသင့် ဌာနမှ စဉ်းစားသင့်ပါကြောင်း၊

(ပ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၁၀(စ) တွင် အထက်အပိုဒ် ၉(ခ)ပါ တည်ဆောက်ရေးကာလအတွင်း မမျှော်မှန်းခဲ့သည့် အကြောင်းတစ်စုံတစ်ရာကြောင့် သက်မှတ်ကာလအတွင်း မပြီးပြတ်ပါက တည်ဆောက်ရေးကာလတိုးမြှင့်မှုကို နှစ်ဦးနှစ်ဖက် ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့်ဆောင်ရွက်ရမည်ဟု ဖော်ပြထားရာ နောင်အငြင်းပွားမှု မဖြစ်ပေါ်စေရေးအတွက် မည်သည့်ကိစ္စရပ်များသည် မမျှော်မှန်းခဲ့သည့် အကြောင်းဖြစ်ကြောင်း တိကျစွာ ဖော်ပြသတ်မှတ်သင့်ပါကြောင်း၊

(ဏ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၁၁(ဂ) ၌ ဒုတိယနှစ်မှ BOT သက်တမ်းကာလကုန်ဆုံးသည်အထိ မူလနှုန်းထား ၇၀၀/ ပေါ်တွင် တစ်နှစ်လျှင် ၅% စီထပ်မံတိုးမြှင့်ရောင်းချကောက်ခံသွားမည်ဖြစ်သည်ဟု ဖော်ပြထားရာ ရှင်းလင်းမှုမရှိပါ။ ယင်းသို့ဖော်ပြမည့်အစား ယခင်နှစ်၏နှုန်းထားအပေါ် ၅% တိုးမြှင့်ကောက်ခံမည်ဟု ဖော်ပြရန်သင့်မသင့် စဉ်းစားသင့်ပါကြောင်း၊

(တ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၁၁(ပ)တွင် ××××× မြစ်ရေတင်တည်ဆောက်ရေးကာလမှာ နောက်ဆက်တွဲ(ဂ)ပါ အတိုင်းဖြစ်သည်ဟု ဖော်ပြထားရာ BOT စာချုပ်မချုပ်ဆိုမီ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ တတိယပတ်ကတည်းက လုပ်ငန်းစတင်လုပ်ဆောင်နေသည့် သဘောသက်ရောက်နေပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါကြောင်း၊

(ထ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၁၁ တွင် အက္ခရာစဉ်များကို မှန်ကန်စွာ ရေးသားဖော်ပြရန်လိုအပ်ပါကြောင်း၊

(ဒ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၁၃(ခ) ၌ လုပ်ငန်းလုပ်ကိုင်သူသည် လစဉ်တိုးတက်မှုအစီရင်ခံစာကို မိတ္တူ(၃)စုံပြုစုပြီး လုပ်ငန်းခွင့်ပြုသူထံ တင်သွင်းရမည်ဟုဖော်ပြထားရာ လစဉ်တိုးတက်မှုအစီရင်ခံစာကို လတစ်လ၏ မည်သည့်နေ့ရက်အတွင်းတွင် ပေးပို့ရမည်ဖြစ်ကြောင်း ရက်ကာလအတိအကျသတ်မှတ်ဖော်ပြသင့်ပါကြောင်း၊

(ဓ) BOT စာချုပ်(မူကြမ်း) အပိုဒ် ၁၉(ဃ) ၌ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ (Force Majere) (၁၂)လ ဆက်တိုက်ဖြစ်ပေါ်လာခြင်း ဟု ဖော်ပြထားရာ အချိန်ကာလကြာမြင့်လွန်းသည် ဟု ယူဆပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါကြောင်း၊

(န) BOT စာချုပ်(မူကြမ်း) အနုညာတစီရင်ဆုံးဖြတ်ခြင်း၊ အပိုဒ် ၂၂ တွင် အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအနုညာတ

စီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ(မြန်မာနိုင်ငံအက်ဥပဒေအမှတ် ၄/၁၉၄၄)နှင့် နောက်ပိုင်းထုတ် ××××× ဖြစ်စေရမည်ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ဖော်ပြပါအက်ဥပဒေကို ၂၀၁၆ ခုနှစ်၊ အနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေဖြင့် ရုပ်သိမ်းပြီးဖြစ်သဖြင့် ယင်းအက်ဥပဒေအစား ၂၀၁၆ ခုနှစ်၊ အနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေအား အငြင်းပွားမှုဖြေရှင်းရာတွင် လိုက်နာရမည့်ဥပဒေအဖြစ် ဖော်ပြရန် Slip ကပ်ပေးလိုက်ပါကြောင်း၊

(ပ) BOT စာချုပ်(မူကြမ်း) စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလခေါင်းစဉ်အောက် အပိုဒ် ၂၃(က) တွင် စာချုပ်အကျိုးသက်ရောက်မှုကိုလည်းကောင်း၊ အပိုဒ် ၂၃(ခ) တွင် စာချုပ်သက်တမ်းကာလကိုလည်းကောင်း၊ အပိုဒ် ၂၃(ဂ) စာချုပ်သက်တမ်းတိုးခြင်းကိုလည်းကောင်း ရောထွေးစွာ ဖော်ပြထားသဖြင့် သီးခြားခေါင်းစဉ်များဖြင့် ရှင်းလင်းစွာ ဖော်ပြသင့်ပါကြောင်း၊

(ဖ) BOT စာချုပ်(မူကြမ်း)တွင် လုပ်ငန်းအာမခံကြေး (Performance Bank Guarantee) နှင့်စပ်လျဉ်းသည့် စည်းကမ်းချက်မပါရှိကြောင်း တွေ့ရှိရပါသည်။ လုပ်ငန်းအာမခံကြေး ရယူရန်သင့် မသင့် ဌာနမှ သတိပြုဆောင်ရွက်သင့်ပါကြောင်း၊

(ဗ) BOT စာချုပ်(မူကြမ်း)တွင် မြေနှင့် အဆောက်အအုံသို့ပြန်လည်ဝင်ရောက်ခြင်း၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်း၊ သယံဇာတတွေ့ရှိခြင်းတို့နှင့် စပ်လျဉ်းသည့် စည်းကမ်းချက်များမပါရှိသဖြင့် အလားတူစာချုပ်များတွင် အသုံးပြုလေ့ရှိသောစာပိုဒ်များကို Slip ကပ်ပေးလိုက်ပါကြောင်း၊

(ဘ) မြေငှားစာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များနှင့် BOT စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များ ညီညွတ်စေရေး ဌာနမှ တာဝန်ယူစိစစ်ရန် ဖြစ်ပါကြောင်း၊

(မ) BOT စာချုပ်(မူကြမ်း)တွင် ကွက်လပ်များပါရှိရာ စာချုပ်ချုပ်ဆိုချိန်တွင် ယင်းကွက်လပ်များအား ပြည့်စုံမှန်ကန်စွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါကြောင်း၊

(ယ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါကြောင်း၊

(ရ) တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ အစိုးရတံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့်(သို့) သက်သာခွင့် မရရှိသေးလျှင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ ထမ်းဆောင်ရမည်ဖြစ်ပါကြောင်း၊

(လ) ဤစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေ အကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာ မဟုတ်သည့်စီမံရေးရာ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာ ကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန် မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်း ဆောင်ရွက်ရန်အကြံပြုပါကြောင်း၊

(သ) Aqua Pura Co.Ltd သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီဟုတ် မဟုတ် စာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိမရှိ၊ စာချုပ် ၂ ရပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်း ခံရသူဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ် သင့်ပါကြောင်း၊

(ဟ) ဤစာချုပ်(မူကြမ်း)နှစ်ရပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန် အတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ စာချုပ်မိတ္တူ (၃) စောင်စီ ပေးပို့ပါရန် မေတ္တာ ရပ်ခံအပ်ပါကြောင်း။

၅။ သို့ဖြစ်ပါ၍ မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Aqua Pura Co.Ltd တို့သည် အထက် ဖော်ပြပါ အကြံပြုချက်များနှင့်အညီ ဆောင်ရွက်နိုင်ပါကြောင်းနှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ မင်နီဖြင့် ပြင်ဆင်ပေးထားသည့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)တစ်စုံနှင့် BOT သဘောတူစာချုပ် (မူကြမ်း)တစ်စုံတို့ကို ပူးတွဲပေးပို့အပ်ပါသည်။

( ခင်မောင်လှ )
တိုင်းဒေသကြီးဥပဒေချုပ်

မိတ္တူကို -

- ရုံးလက်ခံ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့
စည်ပင်သာယာရေးဝန်ကြီးဌာန
မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ

နှင့်

အကွာပူရာကုမ္ပဏီလီမိတက်
Aqua Pura Co., Ltd.

တို့အကြား
ချင်းတွင်းမြစ်ရေတင်ရေသန့်စက်ရုံအား
B.O.T
(တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်း နှင့်
လွှဲပြောင်းပေးခြင်း)စနစ်ဖြင့်
လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်
စာချုပ်မူကြမ်း

၂၀၁၆ခုနှစ်

# ချင်းတွင်းမြစ်ရေတင်ရေသန့်စက်ရုံ
# B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်း နှင့် လွှဲပြောင်းပေးခြင်း)စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ နှင့် Aqua Pura Co., Ltd. တို့အကြား ချုပ်ဆိုသည့် သဘောတူစာချုပ်

ဤသဘောတူစာချုပ်ကိုစစ်ကိုင်းတိုင်းဒေသကြီး၊မုံရွာမြို့တွင်၂၀၁၆ခုနှစ်၊ ဒီဇင်ဘာလ(၁)ရက်နေ့၌ စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ ကိုယ်စားပြုသော မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ ဦးထွန်းထွန်း၊ အမှုဆောင်အရာရှိ၊ ဒုတိယညွှန်ကြားရေးမှူး မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီ (ဤမှနောင်တွင် **"လုပ်ငန်းခွင့်ပြုသူ"** ဟုရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ ၊ ယင်းစကားရပ်တွင်စာသားအရ လည်းကောင်း ၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ ခွင့်ပြုလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

အုပ်ချုပ်မှုဒါရိုက်တာ ဦးအေးထွန်းအောင် ကိုယ်စားပြုသော ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသောကုမ္ပဏီဖြစ်သည့် Aqua Pura Co., Ltd. အမှတ်(၂၅၈-၂၆၂)၊ ၁၁-လွှာ၊ Classic Strand Condominium၊ ကမ်းနားလမ်းနှင့်ကုန်သည်လမ်းထောင့်၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့ (ဤမှနောင်တွင် **"လုပ်ငန်းလုပ်ကိုင်သူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရခွင့်ပြုလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

## နိဒါန်း

**"လုပ်ငန်းလုပ်ကိုင်သူ"**သည် နေ့စဉ်ရေဂါလံတစ်သန်း သန့်စင်၊ ထုတ်လုပ်၊ ဖြန့်ဖြူးမည့် ချင်းတွင်းမြစ်ရေတင်စီမံကိန်းကို B.O.T (တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ရာ အကျိုးခံစားခွင့်ဆိုင်ရာကိစ္စရပ်များ အပါအဝင် စာချုပ်ပါလုပ်ငန်းစဉ်များ စနစ်တကျ ဆောင်ရွက်နိုင်ရန်အတွက် ဤသဘောတူစာချုပ်ကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူညီကြပါသည်။

## အဓိပ္ပါယ်ဖွင့်ဆိုချက်များ

၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူပိုင် စက်ယန္တရား"** ဆိုသည်မှာ ဤ **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** ကို ပြီးစီးအောင်ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့် အစိတ်အပိုင်းများ ပြန်လည်ပြုပြင်ဆောင်ရွက်ရာတွင် လည်းကောင်း၊ အသုံးပြုမည့် စက်၊ ယာဉ်၊ ယန္တရားများ၊ စက်သုံးကိရိယာတန်ဆာပလာပစ္စည်းများကို ခေါ်ဆိုသည်။

(ခ) **"အမြဲတမ်းလုပ်ငန်းများ"**ဆိုသည်မှာ ဤစာချုပ်ပါ **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** လုပ်ငန်းတွင်အကျုံးဝင်သောပုံစံပြု၍ဆောင်ရွက်ရမည့် အမြဲတမ်းလုပ်ငန်းများကို ခေါ်ဆိုသည်။

(ဂ) **"တစ်ဆင့်ခံလုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** ဆိုသည်မှာ **"လုပ်ငန်းလုပ်ကိုင်သူ"** ထံမှ လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား တရားဝင်ခွဲဝေလုပ်ကိုင်ခွင့်ရသူ (သို့မဟုတ်) လုပ်ငန်းနှင့်သက်ဆိုင်သည့်တည်ဆောက်ရေးလုပ်ငန်းများ၊ စက်ပစ္စည်းများ၊ ယာဉ်ယန္တရားများပေးသွင်း ခွင့်ရသူများကို ဆိုလိုသည်။

(ဃ) **"စက်ရုံ၊အလုပ်ရုံ"**ဆိုသည်မှာ ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များအရ **"လုပ်ငန်းလုပ်ကိုင်သူ"**မှ ဤ **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** လုပ်ငန်းတွင် အကျုံးဝင်သော အမြဲတမ်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် အထောက်အကူဖြစ်စေရန် ရည်ရွယ်၍ စက်ပစ္စည်း၊ကိရိယာ(လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကိရိယာများ) တပ်ဆင်ထားသည့် စက်ရုံ၊ အလုပ်ရုံကို ခေါ်ဆိုသည်။

(င) **"လုပ်ငန်းခွင်နေရာ"** ဆိုသည်မှာ ဤသဘောတူစာချုပ်တွင် ရည်ညွှန်းဖော်ပြထားသည့် လုပ်ငန်းအပိုင်း၏နေရာများ၊**"လုပ်ငန်းခွင့်ပြုသူ"**မှလုပ်ငန်းဆောင်ရွက်ရန်သတ်မှတ်ပေးထားသည့်နေရာများ၊ရုံးအဆောက်အဦး၊ စက်ရုံ၊ အလုပ်ရ တည်ဆောက်ထားသည့်နေရာများ၊ ပစ္စည်းများစုပုံထားသည့် နေရာများကို ခေါ်ဆိုသည်။

(စ) **" စာချုပ် "** ဆိုသည်မှာ ဤသဘောတူစာချုပ်ကို ဆိုလိုသည်။

(ဆ) **" သန့်စင်ပြီးရေ "** ဆိုသည်မှာ **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** မှ WHO Standard နှင့် အညီ ထုတ်လုပ်၍ ထွက်ရှိသည့် ရေကိုဆိုလိုသည်။

(ဇ) **"စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း"** ဆိုသည်မှာ စက်ရုံမှ ထွက်ရှိလာသည့် သန့်စင်ပြီးရေအား စီးပွားဖြစ် ထုတ်လုပ်ဖြန့်ဖြူးရောင်းချပေးခြင်းကို ဆိုလိုသည်။

## အာမခံနှင့်ကိုယ်စားပြုခြင်း

၂။ ဤစာချုပ်ဝင် တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏တည်ဆဲဥပဒေများအရဖွဲ့စည်းထား၍အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူ ဖြစ်ကြောင်း နှင့် ဤသဘောတူစာချုပ်ကိုချုပ်ဆိုနိုင်ရန်အလို့ငှာလုပ်ပိုင်ခွင့်အာဏာအပ်နှင်းခြင်းခံရသူများဖြစ်ကြောင်းအာမခံပါသည်။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည်ခိုင်မာသောဘဏ္ဍာရေးရပ်တည်မှုရှိသူဖြစ် ကြောင်း အာမခံပါသည်။

## ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်

၃။ ဤ **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** လုပ်ငန်းကိုဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည် -

(က) စီမံကိန်းအတွက်စူးစမ်းလေ့လာခြင်း။

(ခ) ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်း။

(ဂ) စီးပွားရေးတွက်ခြေကိုက်မှုလေ့လာသုံးသပ်ခြင်း။

(ဃ) ရေသန့်စက်ရုံတည်ဆောက်ရန်အတွက် မြေသားတူးဖော်ခြင်း။

(င) စက်ယန္တရားများ အထိုင်ချခြင်း။

(စ) စမ်းသပ်လည်ပတ်ခြင်း။

(ဆ) ဖြန့်ဝေရေးလုပ်ငန်းအတွက် ရေပိုက်လိုင်းများ ပြုပြင်ခြင်းနှင့်အသစ်သွယ်တန်းခြင်း။

(ဇ) ရေဖြန့်ဝေခြင်းလုပ်ငန်းများ ဆောင်ရွက်ခြင်း။

**မြေငှားရမ်းခ**

၄။ **"လုပ်ငန်းလုပ်ကိုင်သူ"**သည်**"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"**ကို (B.O.T) စနစ်ဖြင့်လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသဖြင့်**"လုပ်ငန်းခွင့်ပြုသူ"**အား မြေငှားရမ်းခအနေဖြင့်တစ်နှစ်လျှင်ငွေကျပ် ၃,၆၀၀,၀၀၀/- (ကျပ်သုံးဆယ့်ခြောက်သိန်းတိတိ)ကိုပေးအပ်ရမည်။**"လုပ်ငန်းလုပ်ကိုင်သူ"**သည်တည်ဆောက်ရေးကာလအတွင်းတွင်မူ ကင်းလွတ်ခွင့်ရှိရမည်။ စီးပွားဖြစ်စတင် ဖြန့်ဖြူးရောင်းချသည့်နေ့မှစ၍ **"လုပ်ငန်းခွင့်ပြုသူ"** ထံ B.O.T သက်တမ်းကုန်ဆုံးသည့်နေ့အထိနှစ်စဉ်မပျက်မကွက်ပေးသွင်းရမည်။ လုပ်ငန်းလုပ်ဆောင်မည့်တည်နေရာမြေပုံမှာ နောက်ဆက်တွဲ ( က ) ပါအတိုင်းဖြစ်သည်။

**အကျိုးအမြတ်ခွဲဝေခြင်း**

၅။ **"လုပ်ငန်းလုပ်ကိုင်သူ"**သည် **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** မှ သန့်စင်၍ ထွက်ရှိလာသောရေအားစီးပွားဖြစ်ဖြန့်ဖြူးရောင်းချ၍ အခွန်ငွေအားလုံးပေးဆောင်ပြီးရရှိလာသောအသားတင်အကျိုးအမြတ် (Net Profit)၏ (၂၀%) အား **"လုပ်ငန်းခွင့်ပြုသူ"** အား ခွဲဝေပေးရမည်။ အကျိုးအမြတ်တွက်ချက်ရာတွင် လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့သည် ပွင့်လင်းမြင်သာမှုရှိရမည်ဖြစ်ပြီး လုပ်ကိုင်ခွင့်ရသူ၏ ဝင်ငွေထွက်ငွေစာရင်းများကို လုပ်ကိုင်ခွင့်ပြုသူမှ လွတ်လပ်စွာစစ်ဆေးပိုင်ခွင့်ရှိပြီး လိုအပ်ပါက ပြင်ပစာရင်းစစ်ငှားရမ်း၍စစ်ဆေးခွင့်ရှိရမည်။ လုပ်ကိုင်ခွင့်ရသူအနေဖြင့် NetProfit ၂၀% ကိုပထမအကြိမ်အနေဖြင့် **စက်တင်ဘာလ ( ၁၅ ) ရက်နေ့** ထက်နောက်မကျဘဲလည်းကောင်း၊ ဒုတိယအကြိမ်အဖြစ် **မတ်လ ( ၃၀ ) ရက်နေ့** ထက်နောက်မကျဘဲ မြို့နယ်စည်ပင်သာယာရေးကော်မတီ၏ သက်ဆိုင်ရာငွေစာရင်းတွင် မပျက်မကွက်ပေးသွင်းရမည်။ လုပ်ကိုင်ခွင့်ရသူအနေဖြင့် လုပ်ငန်း၏ဝင်ငွေထွက်ငွေလစဉ် စာရင်းရှင်းတမ်းအား (၃)လ တစ်ကြိမ် မုံရွာမြို့နယ်စည်ပင်သာယာရေးကော်မတီရုံးသို့ပေးပို့တင်ပြရမည်။ မြေငှားရမ်းခငွေအား Netprofit တွင် ထည့်သွင်းတွက်ချက်ခြင်းမပြုရ။

**စံချိန်စံညွှန်းများ**

၆။ **"လုပ်ငန်းလုပ်ကိုင်သူ"**သည် **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** လုပ်ငန်းကိုအဆင့်ဆင့်ဆောင်ရွက်ရာတွင်**"လုပ်ငန်းခွင့်ပြုသူ"**မှသတ်မှတ်ထားသည့်နည်းပညာဆိုင်ရာစံညွှန်းများနှင့်ကိုက်ညီအောင်လုပ်ငန်းများကိုအကောင်အထည်ဖော်ဆောင်ရွက်ပေးရမည်။အချို့လုပ်ငန်းများကိုဆောင်ရွက်ရာတွင်သတ်မှတ်ချက်များအတိုင်းဆောင်ရွက်ရန်မဖြစ်နိုင်ပါကလိုအပ်သလိုနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ခွင့်ရှိသည်။စီမံကိန်းမှထွက်ရှိလာသောဖြန့်ဖြူးမည့်ရေ၏အရည်အသွေးစံချိန်စံညွှန်းမှာနောက်ဆက်တွဲ(ခ)ပါစံချိန်စံညွှန်းအတိုင်းဖြစ်သည်။

**"လုပ်ငန်းခွင့်ပြုသူ" ၏တာဝန်များ**

၇။ **"လုပ်ငန်းခွင့်ပြုသူ"**၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"**၏သဘောတူစာချုပ်ပါ လုပ်ငန်းများဆောင်ရွက်နိုင်ရန်နှင့်ဥပဒေနှင့်အညီလုပ်ငန်းများဆောင်ရွက်နိုင်ရန် လိုအပ်သောခွင့်ပြုမိန့်ကို **စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့** နှင့် **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**တို့မှ ရရှိရန် ပံ့ပိုးကူညီဆောင်ရွက်ပေးရမည်။

(ခ) **"လုပ်ငန်းခွင့်ပြုသူ"**သည် **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"**အတွက် လိုအပ်သော သက်ဆိုင်ရာဝန်ကြီးဌာနများ၊ အစိုးရဌာနများ၏ အတည်ပြုချက်၊ သဘောတူညီချက်နှင့် ခွင့်ပြုချက်များရရှိအောင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) **"လုပ်ငန်းခွင့်ပြုသူ"**သည်**"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** အတွက်စီမံကိန်းနှင့်ဆက်စပ်သည့်လိုအပ်သောအချက်အလက်များ၊သတင်းနှင့်အစီရင်ခံစာများ၊နည်းပညာရပ်ဆိုင်ရာကိစ္စများ၊ အတိုင်ပင်ခံ အင်ဂျင်နီယာများကို ကူညီဆောင်ရွက်ပေးရမည်။

(ဃ) **"လုပ်ငန်းခွင့်ပြုသူ"** သည်ဆိုခဲ့သည့် **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"**နှင့် ဖြန့်ဝေရေးအတွက်ရေပိုက်လိုင်းကွန်ယက်တည်ဆောက်ခြင်းအတွက်လိုအပ်မည့်မြေနေရာသုံးစွဲခွင့်ကို ဥပဒေပြဌာန်းချက်များနှင့်အညီ မြေယာအသုံးပြုခွင့်ရရှိရန် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၂၇)ပါပြဌာန်းချက်များအရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက်ပေးရမည်။

(စ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"**အား ဤစာချုပ်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်မှုတွင် လိုအပ်သည့် ကြီးကြပ်စစ်ဆေးမှုများ ဆောင်ရွက်ရမည်။

(ဆ) **"လုပ်ငန်းခွင့်ပြုသူ"**သည် **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** ၏လိုအပ်သောနည်းပညာအတွက်**"လုပ်ငန်းလုပ်ကိုင်သူ"**အား နိုင်ငံခြားအကူအညီရယူခြင်းနှင့်ပူးပေါင်း အကောင်အထည်ဖော်နိုင်ရေးအတွက် ခွင့်ပြုပေးရမည်။

(ဇ) **"လုပ်ငန်းခွင့်ပြုသူ"**သည်**"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** တည်ဆောက်ရေးကာလ မြစ်ရေပေးဝေခြင်းလုပ်ငန်းကိုလက်ရှိအနေအထားအတိုင်းဆက်လက်ပေးဝေဖြန့်ဖြူးရောင်းချခွင့်ရှိစေရမည်။

(ဈ) ယခု သဘောတူစာချုပ်၏ အပိုဒ် ၃(က)၊ (ခ)၊ (ဂ)၊ (ဃ)၊ (င)၊ (စ)၊ (ဆ) တို့တွင် ဖော်ပြထားရှိသည့်လုပ်ငန်းစဉ်များ ပြီးဆုံးသည့်နေ့မှစ၍ **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လုပ်ငန်းလုပ်ကိုင်သူ"** ထံသို့ ဤစာချုပ်၏သဘောတူညီချက်အတိုင်း လုပ်ငန်းများအား လွှဲအပ်ပေးစေရမည်။

(ည) **" မြစ်ရေတင် ရေသန့်စက်ရုံစီမံကိန်း "** အတွက် **" လုပ်ငန်းလုပ်ကိုင်သူ "** သည် ပြည်တွင်းပြည်ပမှချေးငွေချေးယူသုံးစွဲခြင်းကိစ္စကိုလည်းကောင်း၊ ပြည်ပမှစက်ပစ္စည်း၊ ယာဉ်ယန္တရားများ၊ ဝယ်ယူတင်သွင်းရန်အတွက် ပစ္စည်းတင်သွင်းခြင်း ကိစ္စရပ်များကိုလည်းကောင်း၊ **" လုပ်ငန်းခွင့်ပြုသူ "** မှ လုပ်ထုံးလုပ်နည်းများနှင့် အညီကူညီဆောင်ရွက်ပေးရမည်။

(ဋ) **" လုပ်ငန်းလုပ်ကိုင်သူ "** သည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကို ပြီးစီးအောင် မဆောင်ရွက်နိုင်လျှင် **" လုပ်ငန်းခွင့်ပြုသူ "** စာဖြင့်ရေးသား၍ အချိန်တိုးပေးရန် တောင်းဆိုခွင့်ပြုနိုင်သည်။ **" လုပ်ငန်းခွင့်ပြုသူ "** သည် ယင်းတင်ပြချက် အထောက်အထားများပေါ် အခြေပြု၍ အချိန်တိုးပေးရန်စဉ်းစားမည်။

**"လုပ်ငန်းလုပ်ကိုင်သူ" ၏တာဝန်များ**

၈။ **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူ"**သည် **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"**၏လုပ်ငန်းအတိုင်းအတာပမာဏကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ ကြီးကြပ်သူအလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံပစ္စည်းများ၊ ကိရိယာတန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ဖြည့်ဆည်းခြင်း၊ ဆောင်ရွက်ခြင်းနှင့် စာချုပ်ပါအချက်များနှင့်အညီ သတ်မှတ်ကာလအတွင်းလုပ်ငန်းပြီးစီးအောင်ဆောင်ရွက်ရမည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်သူ"**သည် ယင်း၏ ထိန်းချုပ်မှုအောက်ရှိ စီမံကိန်းစခန်းအားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ်ကင်းရှင်းစေမှု ရှိစေရေးတို့အတွက် အပြည့်အဝတာဝန်ယူရမည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်သူ"သည် ပြည်တွင်းမှ ဝန်ထမ်းများ၊ အလုပ်သမားများ၊ ယင်းတို့၏လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့်သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင်လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါကပြည်ပမှဝန်ထမ်းများ၊ အကြံပေးအင်ဂျင်နီယာများနှင့် အလုပ်သမားများကို ခေါ်ယူခန့်ထားနိုင်သည်။

(ဃ) "လုပ်ငန်းလုပ်ကိုင်သူ"သည်ဝန်ထမ်းနှင့်အလုပ်သမားများ၏ကျန်းမာရေးနှင့်ဘေးအန္တရာယ်ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုနှင့်တာဝန်ယူမှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

(င) "လုပ်ငန်းလုပ်ကိုင်သူ"သည် ပြည်ပမှ အလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ်အတွင်း မြန်မာနိုင်ငံ၏ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

(စ) "လုပ်ငန်းလုပ်ကိုင်သူ"သည် **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"** ကို စံချိန်စံညွှန်းများနှင့်အညီဆောင်ရွက်ရမည်။ အကယ်၍ ပုံစံပြောင်းလဲဆောင်ရွက်ရန် လိုအပ်လာပါက အဆိုပြုချက်အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်း မရှိစေရ။

(ဆ) "လုပ်ငန်းလုပ်ကိုင်သူ"သည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု(လုပ်ငန်းခွင်နေရာအတွင်းနှင့်အပြင်)အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့် မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင်အခြေအနေ ယုတ်လျော့မှုမရှိအောင်ထိန်းသိမ်းရန်၊ အများပြည်သူ နှောင့်ယှက်မှုမရှိစေရန်တို့အတွက် လိုအပ်သောအစီအမံများ ချမှတ်ဆောင်ရွက်ပေးရမည်။

(ဇ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လုပ်ငန်းခွင့်ပြုသူ" ၏ စာဖြင့် ရေးသားထားသော ခွင့်ပြုချက် မရရှိဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်း မပြုလုပ်ရ။

(ဈ) "လုပ်ငန်းလုပ်ကိုင်သူ" သည် "လုပ်ငန်းခွင့်ပြုသူ" မှ ပံ့ပိုးကူညီသည့်စီမံကိန်းနှင့်ဆက်စပ်သော အချက်အလက်များ၊ သတင်းများနှင့်အစီရင်ခံစာများကို အများနှင့်မသက်ဆိုင်သော ကိစ္စအဖြစ် လျှို့ဝှက်ကိစ္စတစ်ရပ်အနေဖြင့် ထိန်းသိမ်းထားရှိရမည်။

(ည) "လုပ်ငန်းလုပ်ကိုင်သူ" လုပ်ငန်းဆောင်ရွက်သည့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့် ကာလအတွင်း **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"**နှင့် ဖြန့်ဖြူးရေးကွန်ယက်ကို ကောင်းမွန်သော အနေအထားရှိစေရန် အစဉ်ပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများကို ဆောင်ရွက်ရမည်။

(ဋ) "လုပ်ငန်းလုပ်ကိုင်သူ"၏ **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"**မှ ထွက်ရှိသည့် သန့်စင်ပြီးရေကို ယခုသဘောတူစာချုပ်၏အပိုဒ် ၁၁(က)၊(ခ)၊(ဂ)၊(ဃ)၊(င) တို့တွင် ဖော်ပြပါရှိသည့် သတ်မှတ်ချက်များနှင့်အညီ ဖြန့်ဖြူးရောင်းချခွင့်ရှိသည်။

(ဌ) "လုပ်ငန်းလုပ်ကိုင်သူ"သည် စက်ရုံမှထွက်ရှိလာသည့် သန့်စင်ပြီးရေအား လိုအပ်သော မြို့ပေါ်ရပ်ကွက်များသို့ အပြည့်အဝဖြန့်ဖြူးပေးရမည်။

(ဍ) "လုပ်ငန်းလုပ်ကိုင်သူ"၏ **"မြစ်ရေတင်ရေသန့်စက်ရုံစီမံကိန်း"**၏လုပ်ငန်းတစ်ခုလုံးအား တစ်တင့်ခံလွှဲပြောင်းလုပ်ကိုင်ခွင့်မပြုရ၊ တည်ဆောက်ရေးလုပ်ငန်းများ၊ စက်ပစ္စည်းများ၊ ယာဉ်ယန္တရားများ၊ ကိုလွှဲပြောင်းလုပ်ကိုင်ခွင့်ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံလုပ်ကိုင်ခွင့်ရသူများသည် စာချုပ်ပါစည်းကမ်းချက်များကိုလိုက်နာရန် "လုပ်ငန်းလုပ်ကိုင်သူ" ကတာဝန်ယူရမည်။

(ပ) "လုပ်ငန်းလုပ်ကိုင်သူ" သည်သက်ဆိုင်ရာဥပဒေနှင့်အညီ အခွန်အခများ ပေးဆောင်ရမည်။ မြစ်ရေတင်စီမံကိန်း"တည်ဆောက်ရေးကာလ"မှာ နောက်ဆက်တွဲ(ဂ)ပါအတိုင်း ဖြစ်သည်။

**နေ့ရက်၊ အချိန် နှင့် တည်ဆောက်ရေးကာလ**

၉။ နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်း သတ်မှတ်ပါသည်-

